# *K Future Co., Ltd*

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

(B.O.T) စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီဟိုတယ်လုပ်ငန်း
ဆောင်ရွက်ခြင်း

လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာ

ရက်စွဲ၊ . . ၂၀၁၅



# K Future Co.,Ltd

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ *K Future Co., Ltd* (00307/2015)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၁ )ရက်

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက်များအား ပြန်လည်တင်ပြခြင်း။</u>

ရည်ညွှန်းချက် ။ ။(၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၄.၈.၂၀၁၅)ရက်စွဲပါ စာအမှတ် - ၄၂၈၇/၈၃၉/ ၈-၃၉/အဖရ (တနင်္သာရီ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃.၉.၂၀၁၅)ရက်စွဲပါ စာအမှတ် - ရက-၄/မ-၁၄၈၇/၂၀၁၅ (၆၇၈-ခ)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇.၉.၂၀၁၅)ရက်စွဲပါ စာအမှတ် - ရက-၄/မ-၁၄၈၇/၂၀၁၅ (၆၈၄-ခ)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁၁.၂၀၁၅)ရက်စွဲပါ စာအမှတ် - ရက-၄/မ-၁၄၈၇/ ၂၀၁၅ (၉၀၆-ခ)

၁။ အထက်ပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ K Future Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ရည်ညွှန်း(၁)ပါစာအရ အဆိုပြုလုပ်ငန်း အတွက် အသုံးပြုမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်းပြည်ပမှ ဝယ်ယူမည့်စာရင်းများအား ပြည်တွင်းနှင့် ပြည်ပမှ ဝယ်ယူမည့်စာရင်းအား ခွဲခြားတင်ပြရန်ညွှန်ကြားလာပါသဖြင့် ခွဲခြားတင်ပြထားပြီးဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၂)ပါစာဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ သဘောထားပြန်ကြားချက်နှင့်အညီ ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၃။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ရည်ညွှန်း(၃)ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားစာပေးပို့လာရာ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) များအား ရေးဆွဲတင်ပြရန်အတွက် ကျွန်တော်များကုမ္ပဏီမှ E Guard Environmental Services Company Limited အား လုပ်ငန်းအပ်နှံဆောင်ရွက်မည်ဖြစ်ပါသည်။

Building 5/3, Room (1), Yankin Department of Human Settlement & Housing Development,
Between Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : +95173096666, +95173146666 Fax : +951553737
E-mail : kfuture2010@gmail.com Websie : www.kfuture.org



# K Future Co.,Ltd



၄။ ထို့အပြင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၄)ပါစာဖြင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားပြန်ကြားချက်နှင့်အညီဆောင်ရွက်ရန်ညွှန်ကြားလာရာ BQ တွင်ပါဝင်သောအရေအတွက်အတိုင်း Cement (၁၃၄၁) Tons နှင့် Rebar (၂၆၁) Tons သာအသုံးပြုမည်ဖြစ်ပါသည်။ ပြည်ပမှတင်သွင်းမည့် Machinery and Equipment စာရင်း အမှတ်စဉ်(၈)တွင် Hydraulic Excavator တစ်စီးလျှင် US $ 460,000၊ အမှတ်စဉ် (၉)တွင် Tracked Dozer တစ်စီးလျှင် US $ 400,000 ဖြင့်သာ ဝယ်ယူမည်ဖြစ်ပါကြောင်းနှင့် သဘောထားမှတ်ချက်များအား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း လေးစားစွာဖြင့် ပြန်လည်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာကောင်းကျော်ဆွေ
မန်နေဂျင်းဒါရိုက်တာ
K Future Co., Ltd.

မိတ္တူကို-

- ရုံးလက်ခံ။

Building 5/3, Room (1), Yankin Department of Human Settlement & Housing Development,
Between Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : +95173096666, +95173146666 Fax : +951553737
E-mail : kfuture2010@gmail.com Websie : www.kfuture.org



# K Future Co.,Ltd

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့။

ရက်စွဲ၊ . . ၂၀၁၅

အကြောင်းအရာ။ ။BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်အဆောက်အဦးများတည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုချက် တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းတည်ထောင်ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်-

(၁) ကျွန်တော်တို့၏လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသားမည်သူတစ်ဦးတစ်ယောက်မျှ ပါဝင်ပိုင်ဆိုင်ခြင်း လုံးဝ(လုံးဝ)မှ မရှိကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင် လေထု၊ ရေထု၊ မြေထု တို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကို နိုင်ငံတော်မှ သတ်မှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) အလုပ်သမားတစ်ဦးချင်း၏ လုပ်ခလစာကို နောက်ဆက်တွဲဇယားဖြင့် ဖော်ပြထားပြီး ၎င်းလစာနှုန်းထားများသည် အမှန်တကယ်ရရှိမည့် လုပ်ခများဖြစ်ပြီး အဆိုပါလစာငွေသည် ကာလဒေသပေါက်ဈေးနှင့် ကိုက်ညီမှုရှိကြောင်း တင်ပြအပ်ပါသည်။

(၄) လစာတစ်နှစ်လျှင် (၂,၀၀၀,၀၀၀)နှင့် အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသောနှုန်းထားများနှင့်အညီ ပေးဆောင်ရေးအား ကုမ္ပဏီမှ တာဝန်ယူပါကြောင်း ကတိပြုပါသည်။

(၅) CSR ရန်ပုံငွေအဖြစ် နှစ်စဉ်လုပ်ငန်း၏ အသားတင်အမြတ်ငွေ၏ (၂%) အား သီးသန့်ထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၆) လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်အား အသုံးပြုသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

Building 6/3, Room (1), Yankin Department of Human Settlement & Housing Development,
Between Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel: +95173096666, +95173146666 Fax: +951553737

# K Future Co.,Ltd

လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် နိုင်ငံတော်၏စက်ရုံ၊ အလုပ်ရုံ၊ အလုပ်သမားဥပဒေ အခြေခံစည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(၈) ဆောက်လုပ်ရေးလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်ပေါ်စေရေးအတွက် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးပညာရှင်များနှင့် တိုင်ပင်ခြင်း၊ အကြံဉာဏ်ရယူခြင်းများ ဆောင်ရွက်သွားပါမည်။

(၉) မြေသာနှင့်ပတ်သက်သည့် နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိပြုပါသည်။

(၁၀) ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာဌာနများ၊ အဖွဲ့အစည်းများ၏ ညွှန်ကြားချက်များ၊ ဥပဒေစည်းကမ်းများအား လိုက်နာသွားမည်ဖြစ်ကြောင်းနှင့် ခွင့်ပြုမိန့်နှင့် လုပ်ငန်းလိုင်စင်များ ရယူဆောင်ရွက်သွားမည် ဖြစ်ကြောင်း ကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါက်တာကောင်းကျော်ဆွေ
Managing Director
K Future Co., Ltd

Building 53, Room (1), Yankin Department of Human Settlement & Housing Development,
Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : +95173096666, +95173146666 Fax : +951553737
E-mail : kfuture2010@gmail.com Website : www.kfuture.org



# K Future Co.,Ltd

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊

ရန်ကုန်မြို့။

ရက်စွဲ၊ . . ၂၀၁၅

အကြောင်းအရာ။ ။မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ(၂၀)တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

၁။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ K Future Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်း ဧက (၇၀၀)ခန့် အား တနင်္သာရီတိုင်းဒေသကြီး အစိုးရထံမှ BOT စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီ ဟိုတယ်အဆောက်အဦးများ [illegible]ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်သည် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၁၅၄,၀၇၀) အပါအဝင် မြန်မာ [illegible]ကျပ်သန်း (၁၅၁၆.၁၀) ကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ ၎င်းတွင် မြေအသုံးချခွင့်ပေးငွေအပါအဝင် လုပ်ငန်းလည်ပတ် [illegible]ငွေကျပ် (၅)သန်း၊ စက်ပစ္စည်း အမေရိကန်ဒေါ်လာ (၅၁,၉၉၇)၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်း အမေရိကန် ဒေါ်လာ ([illegible]၀၇၃)နှင့် အဆောက်အဦးတန်ဖိုးကျပ်(၁၅၁၁.၁)သန်း ကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

[illegible] တည်ဆောက်ဆဲကာလတွင် လိုအပ်သောဝန်ထမ်းများအား ပြည်တွင်းရှိ အတတ်ပညာရှင်များဖြင့် တည်ဆောက် [illegible]ဖြစ်ပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါက နယ်စပ်ဒေသဖြစ်သည့် တနင်္သာရီတိုင်းဒေသကြီး၏ ဒေသဖွံ့ဖြိုး [illegible] များအတွက်အကျိုးဖြစ်စေမည့်အပြင် ဒေသခံပညာတတ်လူငယ်များအတွက် အလုပ်အကိုင်အသစ်များနှင့် [illegible]တွေ့အကြုံရရှိစေမည်ဖြစ်ပြီး နိုင်ငံတော်အတွက်လည်း နိုင်ငံခြားငွေ ရှာပေးနိုင်မည်ဖြစ်ပါသည်၊ ဒေသဆိုင်ရာ [illegible]ကမှုနှင့် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများလည်း ရရှိလာနိုင်မည်ဖြစ်ပါသည်။

[illegible]သို့ဖြစ်ပါ၍ ဒေသဖွံ့ဖြိုးရေးနှင့် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန်အလို့ငှာ လည်းကောင်း မြန်မာ [illegible]များအတွက် အလုပ်အကိုင်သစ်များ ရရှိစေရန်အလို့ငှာလည်းကောင်း၊ မြန်မာနိုင်ငံ၏ ဖွံ့ဖြိုးတိုးတက်ရေး တစ်ဖက် [illegible] အထောက်အကူပြုနိုင်ရေးအတွက်လည်းကောင်း ကျွန်တော်တို့၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေး [illegible]မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်

[illegible] I/A, Room (1), Yankin Department of Human Settlement & Housing Development,
[illegible] Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : +95173095665, +95173146666 Fax : +951553737



# K Future Co.,Ltd



တို့ကိုလည်း ခံစားခွင့်ပြုနိုင်ပါရန် အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများနှင့်အတူ ပူးတွဲလျှက် ရှိသော လေးစားစွာဖြင့် တင်ပြလျှောက်ထားအပ်ပါသည်။

ပူးတွဲလျှက် -

(က) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်

(ခ) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့် တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ

(ဃ) တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူ စာချုပ် (မူကြမ်း)

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ပြီးကြောင်း အထောက်အထားများ

လေးစားစွာဖြင့်

ဒေါက်တာကောင်းကျော်ဆွေ
Managing Director
K Future Co., Ltd

... Room (1) Yankin Department of Human Settlement & Housing Development,
... 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.



# K Future Co.,Ltd

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊

ရန်ကုန်မြို့။

ရက်စွဲ၊ . . ၂၀၁၅

အကြောင်းအရာ။ <u>။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ K Future Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့၏ မြေပုံညွှန်းအမှတ် UTM-1098/02 (A-164676, B-78676, C-150662, D-161657) တွင် တည်ရှိသည့် ဗိုလ်နက်ကျောက်ကျွန်း ဧက (၇၀၀)ခန့် အား တနင်္သာရီတိုင်းဒေသကြီး [illegible] BOT စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာ အဆင့်မီ ဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်း [illegible]ရွက်သွားမည်ဖြစ်ပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ လုပ်ငန်းဆောင်ရွက်နိုင်ပါရန် [illegible] ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် အဆိုပြုလွှာ( )စုံကို ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာကောင်းကျော်ဆွေ
Managing Director
K Future Co., Ltd

မိတ္တူ

ဝန်ကြီးချုပ်၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့။

ရုံးလက်ခံ၊

[illegible] Room (1) Yankin Department of Human Settlement & Housing Development,
[illegible] 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
[illegible] 73096666, +95173146666, Fax : +951652727



# K Future Co.,Ltd

## ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်

## သာယာပျော်ရွှင်ရေးအစီအမံများ

ကျွန်တော်တို့၏ K Future Co., Ltd ရှိဝန်ထမ်းများ၏ သက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအတွက် ရက်မှန်ကြေး၊ အချိန်ပိုကြေးနှင့် နှစ်သစ်ကူးကာလများတွင် ဝန်ထမ်းများ လှူဒါန်းသုံးစွဲနိုင်ရေး [illegible]သစ်ကူးအပိုဆုကြေးများ ထုတ်ပေးသွားမည်ဖြစ်ပါသည်။ ဘာသာရေးနှင့်ဆက်စပ်၍ နေ့ကြီးရက်ကြီးများ [illegible] ကုသိုလ်ကောင်းမှုပြုနိုင်ရန် အလုပ်ပိတ်ရက်ပေးခြင်းနှင့် ၄င်းအပြင် ဝန်ထမ်းများ၏လုပ်ရည်ကိုင်ရည်ပေါ် [illegible]ပြီး လုပ်သက်ဆုကြေးများ၊ အပိုဆောင်းဆုကြေးများနှင့် အချိန်ပိုကြေးများ ပေးအပ်သွားမည် ဖြစ်ပါ[illegible]သည်။

ဝန်ထမ်းများကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်းထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရေး [illegible]သောဆေးဝါးများ ထားရှိပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းများ၏ တကိုယ်ရေသန့်ရှင်းရေးများ [illegible]လက်စွာ ရရှိရေးစီစဉ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းများအား မြို့နယ်ဖူလုံရေး [illegible]အသင်းဝင်အဖြစ် ဝင်ရောက်စေမည်ဖြစ်ပြီး နာမကျန်းပါက ရသင့်သည့်ဝန်ထမ်းအခွင့်အရေးများ [illegible]ခွင့်ပေးပြီး ဆေးကုသမှုခံယူစေမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Dr. Kaung Kyaw Swe
Managing Director
K Future Co., Ltd

[illegible] Room (1), Yankin Department of Human Settlement & Housing Development,
[illegible] 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : [illegible] 73146665 Fax : +951553737



# K Future Co.,Ltd

## တည်ဆောက်လုပ်ကိုင်လည်ပတ်မည့်ကာလအား ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ K Future Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ကော့သောင်းမြို့နယ်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်းမြေ(၇၀၀)ဧက ရှိကွင်းအား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.T စနစ်ဖြင့်ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီဟိုတယ် အဆောက်အဦများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

K Future Co., Ltd အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့် ရရှိသည့်နေ့ အနည်းဆုံး နှစ်(၅၀)နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်အပါအဝင် စုစုပေါင်း နှစ်(၇၀) မပျက်ကွက် လည်ပတ်ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Dr. Kaung Kyaw Swe
Managing Director
K Future Co., Ltd



# K Future Co.,Ltd

## ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ K Future [Co].,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ B.O.T [စ]နစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများအား အလုံအလောက် [ထား]ရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်းခွင်ပတ်ဝန်းကျင်အား ဝန်ထမ်းအင်အားအပြည့်ဖြင့် အချိန်ပြည့် [သ]န့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့များမရှိအောင် ရေနုတ်မြောင်းများကို [ရေ]စီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်[ပါသည်]။

[ဆ]ောက်လုပ်ရေးလုပ်ငန်းများမှ ထွက်ရှိသည့် ပစ္စည်းများ၊ မြေစာများနှင့် အခြားစွန့်ပစ်ပစ္စည်းများအား [ပတ်ဝန်း]ကျင်မထိခိုက်စေရန်နှင့် စွန့်ပစ်ပစ္စည်းအမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စနစ်တကျစွန့်ပစ် [illegible]ထားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

[illegible]များအားသန့်စင်အောင် နိုင်ငံတကာမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ သန့်စင် [illegible]ပစ်ခြင်း၊ အမှိုက်များကို စနစ်တကျစွန့်ပစ်ခြင်းနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ ချမှတ်ထား [illegible]စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်စီမံချက် ရေးဆွဲဆောင်ရွက် [illegible]ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Dr. Kaung Kyaw Sw[illegible]
Managing Director
K Future Co., Ltd



# K Future Co.,Ltd

## ရေဆိုးစွန့်ပစ်မှုအစီအစဉ်နှင့် Waste Water Treatment Plantတပ်ဆင်ထားမှုတင်ပြခြင်း

ကျွန်ုပ်တို့၏ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော K Future ကုမ္ပဏီ မှ နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းတည်ဆောက်လုပ်ကိုင်ရာတွင် ရေဆိုးများအား ကမ္ဘာ့ကျန်းမာရေးအဖွဲ့အစည်းမှ သတ်မှတ်ပြဋ္ဌာန်းထားသော ခေတ်မီနည်းစနစ်များသုံးစွဲ၍ နောက်ဆုံးပေါ် စက်ပစ္စည်းကိရိယာများကို သုံးစွဲပြီး ရေဆိုးများကို ပတ်ဝန်းကျင်နှင့် အများပြည်သူအား အန္တရာယ်မဖြစ်နိုင်အောင် စနစ်တကျ ပြုလုပ်ဆောင်ရွက်ပြီးမှသာ ရေမြောင်းများအတွင်းသို့ စွန့်ပစ်မည် ဖြစ်ပါသည်။

ဟိုတယ်လုပ်ငန်းဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း၊ အရည်နှင့်စွန့်ပစ်အဆီများအား ပင်လယ်အတွင်းသို့ တိုက်ရိုက်စွန့်ပစ်မှုမရှိဘဲ သန့်စင်ပြီးမှသာလျှင် စွန့်ပစ်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Dr. Kaung Kyaw
Managing Direc
K Future Co., l

Building 5/3, Room (1), Yankin Department of Human Settlement & Housing Development,
Between Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : +95173096666, +95173146666 Fax : +951553737
E-mail : kfuture2010@gmail.com Website : www.kfuture.org



# K Future Co.,Ltd

<u>လျှပ်စစ်ဓာတ်အားသုံးစွဲခြင်းနှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း</u>

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ K Future Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်း [illegible] (၇၀၀)ကေခန့်အား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံ [illegible]ဆင့်မီဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ယင်းဆိုပြုလုပ်ငန်းအတွက် လိုအပ်သောလျှပ်စစ်ဓာတ်အားကို မဟာမိတ်ဓာတ်အားလိုင်းမှ ရယူ[illegible]နိုင်ခြင်း မရှိသည့်အတွက် ကိုယ်ပိုင်မီးစက် (Generator-150KVA) ကိုအသုံးပြုဆောင်ရွက်[illegible]မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Dr. Kaung Kyaw Swe
Managing Director
K Future Co., Ltd

[illegible] (11), Yankin Department of Human Settlement & Housing Development,
[illegible] 6th St & 7th St, [illegible] Ward, Yankin Township, Yangon, Myanmar.
Tel [illegible] Fax [illegible]

# K Future Co.,Ltd

## CSR ရံပုံငွေထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

ကျွန်မတို့၏ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော K Future Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်း မြေ (၁၀၀)ဧကခန့်အား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.Tစနစ်ဖြင့် ငှားရမ်းပြီးနိုင်ငံတကာအဆင့်မီ [illegible]ဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း၏ နှစ်စဉ်အမြတ်ငွေမှ ၂%အား CSR ရံပုံငွေအဖြစ် ထားရှိသုံးစွဲမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ ၎င်း ၂%၏ ၂၀%အား ပညာရေးအတွက်လည်းကောင်း၊ ၂၅%အား ကျန်းမာရေးအတွက်လည်းကောင်း၊ ၂၀%အား လမ်းပမ်းဆက်သွယ်ရေးအတွက်နှင့် ကျန်၃၅%အား [illegible] ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက် သုံးစွဲရန်လျာထားပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Dr. Kaung Kyaw Swe
Managing Director
K Future Co., Ltd



# K Future Co.,Ltd

## ဝန်ထမ်းများ၏ ဝင်ငွေခွန်ပေးဆောင်ရေးနှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ K Future Co.,Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်းမြေ (၇၀၀)ဧကခန့်အား တနင်္သာရီတိုင်းဒေသကြီးအစိုးရထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီ ဟိုတယ်အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါ သည်။

မိမိတို့ ကုမ္ပဏီဝန်ထမ်းများ၏ လစာငွေ (၁)နှစ်လျှင် ကျပ် (၂,၀၀၀,၀၀၀/-)နှင့်အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသော နှုန်းထားများအတိုင်း ပေးဆောင်ရေးအား ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

**Dr. Kaung Kyaw Swe**
Managing Director
K Future Co., Ltd

Building 5/3, Room (1), Yankin Department of Human Settlement & Housing Development,
Between Yan Aung 6th St & 7th St, 2 Ward, Yankin Township, Yangon, Myanmar.
Tel : +95173096666, +95173146666 Fax : +951553737
E-mail : kfuture2010@gmail.com Website : www.kfuture.org

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ဥပဒေပုဒ်မ ၂၊ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ(ဂ)]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ လ ရက်

ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံလိုသူများ

| | | | |
|---|---|---|---|
| (က) | အမည် | - | ဒေါက်တာကောင်းကျော်ဆွေ |
| (ခ) | အဖအမည် | - | ဦးမောင်မောင်ဆွေ |
| (ဂ) | နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် | - | (၁၂/မရက (နိုင်) ၁၃၂၄၂၀) |
| (ဃ) | နေရပ်လိပ်စာ | - | အမှတ်(E-8)၊ မွန်မြတ်မေတ္တာအိမ်ရာ၊ ပင်ရွှေညောင်လမ်း၊ တာမွေမြို့နယ်။ |
| (င) | လူမျိုး/ဘာသာ | - | မြန်မာ/ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - | K Future Co., Ltd |

(ဆ) လုပ်ငန်းအမျိုးအစား - ဟိုတယ်လုပ်ငန်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - တိုက်အမှတ်(၅/၃)၊ အခန်း(၁)၊ ရန်အောင်(၆)နှင့်(၇)လမ်းကြား၊ (၂)ရပ်ကွက်၊ ရန်ကင်းမြို့နယ်။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် (၁) ................................ (၂) ................................

................................ ................................

(ခ) အဖအမည် (၁) ................................ (၂) ................................

................................ ................................

(ဂ) နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် (၁) ................................ (၂) ................................

................................ ................................

(ဃ) နေရပ်လိပ်စာ (၁) ................................ (၂) ................................

................................ ................................

(င) လူမျိုး/ ဘာသာ (၁) ................................ (၂) ................................

................................ ................................

(စ) အဖွဲ့အစည်းအမည် ................................................................................

(ဆ) လုပ်ငန်းအမျိုးအစား ................................................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ................................................................................

................................................................................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်းနှစ်ခုထက်ပိုပါက သီးခြားစာရွက်ပေါ်တွင် ဖော်ပြပေးရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း ................................................................................

(ခ) ဝန်ဆောင်မှုလုပ်ငန်း ..............................................................................

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစား ဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးပုံသဏ္ဌာန်

(က) တစ်ဦးတည်းပိုင် ..............................................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း ..............................................................................

(ဂ) လီမိတက်ကုမ္ပဏီ K Future Co., Ltd

(ဃ) သမဝါယမအသင်း (အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ)

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်း အမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည် နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်) နောက်ဆက်တွဲ (၁)

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

..............................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား

..................................................................................................................................

(ဂ) အစုစပ်ဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

..................................................................................................................................

(နေရာမလုံလောက်ပါက သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၅၀,၀၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာအမျိုးအစား - ကျပ် ၁၀၀,၀၀၀ တိတိတန်

သာမန်အစုရှယ်ယာ (၅၀၀,၀၀၀)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ် ၆,၂၁၁,၁၇၀,၀၀၀/-

(ဃ) ဒါရိုက်တာအဖွဲ့ဝင်များ၏အမည်စာရင်း - နောက်ဆက်တွဲ(၁)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

| (က) မတည်ငွေရင်းပမာဏ(ကျပ်သန်း) | ကျပ် | US$ | စုစုပေါင်းကျပ် |
|---|---|---|---|
| (၁) ငွေပမာဏ | ၅,၀၀၀,၀၀၀ | | ၅,၀၀၀,၀၀၀ |
| (၂) စက်ပစ္စည်းတန်ဖိုးပမာဏ (နောက်ဆက်တွဲ-၄) | | ၃,၁၂၅,၉၉၇ | ၃,၁၂၅,၉၉၇,၀၀၀ |
| (၃) အဆောက်အအုံများ (နောက်ဆက်တွဲ-၅) | ၂,၉၇၈,၁၀၀,၀၀၀ | | ၂,၉၇၈,၁၀၀,၀၀၀ |
| (၄) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ (နောက်ဆက်တွဲ-၃) | | ၁၀၂,၀၇၃ | ၁၀၂,၀၇၃,၀၀၀ |
| | ၂,၉၈၃,၁၀၀,၀၀၀ | ၃,၂၂၈,၀၇၀ | ၆,၂၁၁,၁၇၀,၀၀၀ |

| (ခ) | နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့် | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| | (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (နောက်ဆက်တွဲ-(၄-၁),(၄-၂)) | | ၃,၁၂၅,၉၃၇ |
| | (၂) ဆောက်လုပ်ရေးပစ္စည်းများနှင့်အခြား (နောက်ဆက်တွဲ -(၄-၃)) | | ၂၅၈,၉၃၇ |
| | (၃) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ၏ တန်ဖိုးပမာဏ (နောက်ဆက်တွဲ-၃) | | ၁၈၂,၈၇၃ |

(ဂ) တည်ဆောက်မှုကာလ - (၃၆)လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၃)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီး ရက်ပေါင်း(၉၀)အတွင်း

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား - အဆောက်အဦး(၃၆)လုံး ပါဝင်သည့် နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်း

(ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုစသည်ဖြင့် ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဒေသများ - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၏ မြေပုံညွှန်းအမှတ် - UTM-1098/02 (A-164676, B-172676, C-150662, D-161657) မြောက်လတ္တီကျူ(၁၀)ဒီဂရီ(၃၃)မိနစ်၊ အရှေ့လောင်ဂျီကျူ(၉၈)ဒီဂရီ(၁၃)မိနစ် တွင်တည်ရှိသည့် ဗိုလ်နက်ကျော်ကျွန်း

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းစနစ်

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် - အမျိုးအစား အရေအတွက်

(၁)

(၂) နောက်ဆက်တွဲ(၆)

(၃)

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| (၁) လျှပ်စစ်ဓါတ်အား | ၅၀၀ KVA |
| (၂) ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ၁၅၀ KVA |
| (၃) ဘွိုင်လာအသုံးပြုအင်ဂျင်စက် | ............................................ |
| (၄) သဘာဝဓါတ်ငွေ့သုံးစက်အား | ............................................ |
| (၅) ပေးပို့သည့်အခြားအား (ရေအား/ လေအား စသည်များ) | ............................................ |

(စ) နှစ်စဉ်ရေလိုအပ်ချက် - ၃,၆၅၀,၀၀၀ ဂါလံ

(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင် ဖော်ပြပါရန်) - တစ်ရက် ၁၀,၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက် -

အမျိုးအမည် ရေတွက်ပုံ အရေအတွက် တန်ဖိုး

(၁) အဓိကကုန်ကြမ်း

(၁)

(၂)

(၂) အထောက်အကူကုန်ကြမ်း

(၁)

(၂)

(၃) စက်သုံးဆီ/ဓါတ်ငွေ့များ

(၁)

(၂)

(ဇ) အဆောက်အအုံလိုအပ်ချက် - နောက်ဆက်တွဲ-၅

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ် - အစိုးရပိုင်မြေ (၇၀၀)ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့် ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ........................ | ........................ | ........................ | ........................ |
| | (နောက်ဆက်တွဲ-၇) | | |
| ........................ | ........................ | ........................ | ........................ |

(ဋ) ရောင်းချမည့်နည်းစနစ် ပြည်တွင်း(၃၀)ရာခိုင်နှုန်း/ ပြည်ပ(၇၀)ရာခိုင်နှုန်း

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | | ခန့်မှန်းခြေသန်းပေါင်း | |
|---|---|---|---|---|
| | | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | - | နောက်ဆက်တွဲ-၈ | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | နောက်ဆက်တွဲ-၈ | |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | - | | |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချမည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | နောက်ဆက်တွဲ-၇/၈ | |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချမည့် ကုန်ပစ္စည်း ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | နောက်ဆက်တွဲ-၇/၈ | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှလိုအပ်မည့်ဝန်ထမ်းများ -

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ................................................... | ................................. |
| နောက်ဆက်တွဲ-၁၀ | |
| ................................................... | ................................. |
| ................................................... | ................................. |

(ခ) နိုင်ငံခြားမှလိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်မှန်းထားမည့်အချိန်ကာလ |
|---|---|---|
| ............................................ | .................... | ................................ |
| ............................................ | .................... | ................................ |
| ............................................ | .................... | ................................ |

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသောအချက်များ -

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ-၈/၉ | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ-၈ | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ-၈ | |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲ-၂ | |
| (င) | အရင်းကျေကာလ(၁၂)နှစ် | နောက်ဆက်တွဲ-၉ | |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ-၉/၁၀/၁၁ | |
| (ဆ) | အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲ-၁၀ | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံ လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည် -

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်းမရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ

(လျှောက်ထားသူ)

လက်မှတ် - ----------------------------

အမည် - ဒေါက်တာကောင်းကျော်ဆွေ

ရာထူး - Managing Director

K Future Co., Ltd

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

တနင်္သာရီတိုင်းဒေသကြီး

ကော့သောင်းခရိုင်

ကော့သောင်းမြို့

# K Future Co., Ltd

အကြောင်းအရာ။ ။ ဟိုတယ်အပန်းဖြေစခန်းအကောင်အထည်ဖော်ဆောက်လုပ်မည့် လုပ်ငန်းစီမံချက်တင်ပြခြင်း။

ရက်စွဲ၊ . . . ၂၀၁၅

# K Future Co., Ltd

## ကော့သောင်းမြို့နယ်

## ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းစီမံချက်

နိဒါန်း

၁။ K Future Co., Ltd ကော့သောင်းမြို့နယ်သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၃၈၅/၂၀၁၀-၂၀၁၁ ဖြင့် (၁၄.၆.၂၀၁၀)ရက်နေ့တွင် စတင်ဖွဲ့စည်းခဲ့ပါသည်။ ကုမ္ပဏီသည် ရန်ကုန်မြို့တွင် လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်လျှက်ရှိပါသည်။ ယခုအခါ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်တွင် ခရီးသွားအခြေခံသော စီးပွားရေးလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်ဆောင်ရွက်သွားရန် ကုမ္ပဏီဒါရိုက်တာများအစည်းအဝေးတွင် ဆုံးဖြတ်ခဲ့ပါသည်။ ထို့ကြောင့် ကော့သောင်းခရိုင်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်းအား တနင်္သာရီတိုင်းဒေသကြီး၊ တိုင်းဒေသကြီးအစိုးရအဖွဲ့ထံ လျှောက်ထားခဲ့ပါသည်။သို့ဖြစ်၍ အဆိုပါကျွန်း၏ မြေဧက(၇၀၀)ပေါ်တွင် ဘန်ဂလိုနှင့်အပန်းဖြေစခန်းများ ဆောက်လုပ်ရန် ရည်ရွယ်ပြီး ဤလုပ်ငန်းစီမံချက်ကို ရေးဆွဲတင်ပြရခြင်း ဖြစ်ပါသည်။

လုပ်ငန်းရည်ရွယ်ချက်

၂။ K Future Co., Ltd သည် အောက်ပါလုပ်ငန်းရည်ရွယ်ချက်များကို အလေးထားဆောင်ရွက်သွားမည် ဖြစ်ပါသည် -

(က) ဟိုတယ်လုပ်ငန်းခွဲကို ရင်းနှီးမတည်လုပ်ကိုင်ခြင်းဖြင့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တိုးတက်မြင့်မားလာစေရန်၊

(ခ) ဟိုတယ်လုပ်ငန်းဖြင့် နိုင်ငံခြားသားခရီးသွားဧည့်သည်များ ပိုမိုဝင်ရောက်လာပြီး နိုင်ငံတော်အတွက် အခွန်ငွေပိုမိုရရှိလာစေရန်၊

(ဂ) မြန်မာ့ရေပိုင်နက်အတွင်းရှိ ကျွန်း၊ ရေ၊ မြေ၊ သဘာဝသယံဇာတ အလှအပများကို ထိန်းသိမ်းစောင့်ရှောက်သွားရန်နှင့် ဒေသအတွက် အကျိုးရှိရှိအသုံးချသွားနိုင်ရန်၊

(ဃ) ကော့သောင်းဒေသအတွင်း လုပ်သားများ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ကျစေရန်၊

(င) နိုင်ငံခြားသားခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်လာခြင်းဖြင့် ဒေသအတွင်း လက်မှုအရောင်းဆိုင်များ၊ ကမ်းခြေအပန်းဖြေလုပ်ငန်းများ၊ စားသောက်ဆိုင်လုပ်ငန်းများ ဝင်ငွေတိုးတက်ရရှိစေပြီး နိုင်ငံခြားဝင်ငွေရရှိစေရန်။

လုပ်ငန်းဆောင်ရွက်ရန် အစည်းအဝေးညှိနှိုင်းခြင်း

၃။ K Future Co., Ltd သည် ဘန်ဂလိုနှင့် အပန်းဖြေစခန်းလုပ်ငန်းကို ဆောင်ရွက်ရန် အောက်ပါအတိုင်း အစည်းအဝေးညှိနှိုင်းဆုံးဖြတ်ပါသည်-

(က) K Future Co., Ltd အနေဖြင့် ဘန်ဂလိုနှင့် အပန်းဖြေစခန်းများ ဆောက်လုပ်ပြီး ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းခွဲကို ထပ်မံရင်းနှီးမြှုပ်နှံရန်၊

(ခ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းခွဲအား ထိရောက်လျှင်မြန်စွာ လုပ်ကိုင်နိုင်ရေးအတွက် K Future Co., Ltd & Tours Co., Ltd အဖြစ် ကုမ္ပဏီခွဲလက်မှတ်လျှောက်ထားရန်၊

(ဂ) ယင်းကုမ္ပဏီခွဲလုပ်ငန်းကို အောက်ပါဒါရိုက်တာအဖွဲ့ဝင်(၄)ဦးနှင့် မန်နေဂျာ(၂)ဦးအား တာဝန်ခွဲဝေပေးအပ်၍ ဆောင်ရွက်စေရန် -

| | | |
|---|---|---|
| (၁) | ဒေါက်တာကောင်းကျော်ဆွေ | Managing Director |
| (၂) | ဒေါ်တင်တင်နွဲ့ | Director |
| (၃) | ဒေါ်မေနှင်းန | Director |
| (၄) | | Director |
| (၅) | | Admin Manager |
| (၆) | | Operation Manager |

(ဃ) ကုမ္ပဏီလက်မှတ်လျှောက်ထားရရှိပြီးပါက ကော့သောင်းမြို့ရှိ ကမ္ဘောဇဘဏ်လီမိတက်တွင် K Future Hotel & Tours Co., Ltd အမည်ဖြင့် ဘဏ်စာရင်းရှင် (Current A/C) စာရင်းဖွင့်လှစ် ဆောင်ရွက်သွားရန်။

(င) K Future Hotel & Tours Co., Ltd ဘဏ်စာရင်းရှင်(Current A/C) စာရင်းဖွင့်လှစ်ရာတွင်အောက်ပါဒါရိုက်တာအဖွဲ့ဝင်(၃)ဦးအနက် (၂)ဦးလက်မှတ်ဖြင့် ငွေသွင်း/ ငွေထုတ် ပြုလုပ်သွားရန်။

(စ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းအတွက် ရင်းနှီးမတည်ငွေကို K Future Co., Ltd ၏ ပင်မငွေစာရင်းမှ ထုတ်ယူသုံးစွဲသွားရန်။

မတည်ရင်းနှီးငွေရရှိမှု

၄။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန် ရင်းနှီးမတည်ငွေကို အောက်ပါအတိုင်း ထုတ်ယူသုံးစွဲသွားမည် ဖြစ်ပါသည်။

(က) K Future Co., Ltd ၏ ပင်မငွေစာရင်းမှ ထုတ်ယူသုံးစွဲခြင်း။ လုပ်ငန်းတည်ဆောက်ရန် အတွက် လိုအပ်သော ငွေကြေးအရင်းအနှီးကို ဆောက်လုပ်မည့်နှစ်အလိုက် K Future Co., Ltd၏ ပင်မလည့်ပတ်ရင်းနှီးငွေမှ ထုတ်ယူပြီး ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်။ တည်ဆောက်လုပ်ငန်းကာလအလိုက် ထုတ်ယူသုံးစွဲမှုတန်ဖိုးများမှာ -

(၁) တည်ဆောက်မည့်ကာလ ပထမနှစ်တွင် - သိန်း(၃၃,၁၂၆.၂၄)

(၂) တည်ဆောက်မည့်ကာလ ဒုတိယနှစ်တွင် - သိန်း(၁၆,၅၆၃.၁၂)

(၃) တည်ဆောက်မည့်ကာလ တတိယနှစ်တွင် - သိန်း(၁၂,၄၂၂.၃၄)

(ခ) အခြားကုမ္ပဏီငွေစာရင်းမှ ထုတ်ယူသုံးစွဲခြင်း။ လုပ်ငန်းတည်ဆောက်ရန်အတွက် လိုအပ်သောငွေကြေးအရင်းအနှီးမလုံလောက်ပါက K Future Co., Ltd ဒါရိုက်တာအဖွဲ့ဝင်များ ပါဝင်သော Khaing Htaik Htar Co., Ltd ၏ ငွေစာရင်းမှ ထုတ်ယူသုံးစွဲသွားရန် ညှိနှိုင်းအစည်းအဝေး ဆုံးဖြတ်ထားပြီး ဖြစ်ပါသည်။

(ဂ) ဘဏ်မှချေးငွေထုတ်ယူသုံးစွဲခြင်း။ ဟိုတယ်တည်ဆောက်ရေးအတွက် ငွေကြေးအရင်းအနှီးထပ်မံလိုအပ်ပါက ဒါရိုက်တာအဖွဲ့ဝင်များပိုင် မရွှေ့ပြောင်းနိုင်သော အိမ်၊ ခြံ၊ မြေ၊ တိုက်တာများကို အပေါင်အဖြစ်ထားပြီးကော့သောင်းမြို့ကမ္ဘောဇဘဏ်လီမိတက်မှ ချေးယူသုံးစွဲသွားရန် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

အပန်းဖြေစခန်းဆောက်လုပ်ရေးလုပ်ငန်း အကောင်အထည်ဖော်ရေးစီမံချက်ရေးဆွဲခြင်း

၅။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်အတွင်း ဗိုလ်နက်ကျော်ကျွန်း၏ မြေဧက(၇၀၀)ပေါ်တွင် ဘန်ဂလိုပုံစံ ဟိုတယ်အပန်းဖြေစခန်းများ တည်ဆောက်ရန်အတွက် ကုမ္ပဏီဒါရိုက်တာအဖွဲ့ဝင်မှ အောက်ပါနှစ်အလိုက် အပိုင်းအခြားခွဲခြားပြီး အကောင်အထည်ဖော်ဆောင်ရွက်သွားရန် စီမံချက်ရေးဆွဲ ဆောင်ရွက်ထားပါသည်။

(က) ပထမနှစ်တည်ဆောက်ရန်

- ကျွန်း၏ကမ်းခြေနေရာပြင်ဆင်ခြင်း။
- ဆိပ်ခံတံတားနေရာနှင့် ဆိပ်ကမ်းမြေယာပြင်ဆင်ခြင်း။
- Sea View Cottage (၅)လုံး၊ Lagoon Suite (၅)လုံး၊ Jetty (၁)ခု၊ Dam (၁)ခု ဝန်ထမ်းအိမ်ရာ(၁)လုံး ဆောက်လုပ်ခြင်း။

(ခ) ဒုတိယနှစ်တည်ဆောက်ရန်

- အဆောက်အဦများဆောက်လုပ်ရန် မြေညှိခြင်း။
- Sea View Cottage (၅)လုံး၊ Lagoon Suite (၅)လုံး၊ Garden View Cottage (၂)လုံး ဆောက်လုပ်ခြင်း။

(ဂ) တတိယနှစ်တည်ဆောက်ရန်

- အဆောက်အဦများဆောက်လုပ်ရန် မြေညှိခြင်း။
- Garden View Cottage (၈)လုံး၊ Hill Top View Cottage (၆)လုံး ဆောက်လုပ်ခြင်း။

ဆောက်လုပ်ကုန်ကျတန်ဘိုးတွက်ချက်ခန့်မှန်းခြင်း

၆။ ဗိုလ်နက်ကျော်ကျွန်းတွင် ဟိုတယ်ပုံစံဘန်ဂလို အပန်းဖြေစခန်းများ တည်ဆောက်မှုအတွက် အဆောက်အဦ ဆောက်လုပ်ရေးကျွမ်းကျင်ပညာရှင်များ၊အင်ဂျင်နီယာများ၏ခန့်မှန်းတွက်ချက်မှုအရ ကဏ္ဍအလိုက်ကုန်ကျမည့်တန်ဘိုး များမှာ -

| | | | |
|---|---|---|---|
| (က) | ဘန်ဂလိုအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာ ဆောက်လုပ်ခြင်း (မြေယာပြင်ဆင်စရိတ်အပါ အဝင်) | - | ၂,၉၇၈,၁၀၀,၀၀၀ ကျပ် |
| (ခ) | အသုံးပြုမည့်ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ အဝယ်တန်ဘိုး | - | ၁၀၂,၀၇၃,၀၀၀ ကျပ် |
| (ဂ) | အသုံးပြုမည့်ဟိုတယ်လုပ်ငန်းသုံးစက်ပစ္စည်းများ အဝယ်တန်ဘိုး | - | ၃,၁၂၅,၉၉၇,၀၀၀ ကျပ် |
| (ဃ) | အခြားလုပ်ငန်းသုံးငွေသားလက်ကျန် | - | ၅,၀၀၀,၀၀၀ ကျပ် |

လုပ်ငန်းသုံးပစ္စည်းများ ပြင်ပမှဝယ်ယူတင်သွင်းခြင်း

၇။ ဗိုလ်နက်ကျော်ကျွန်း ဘန်ဂလိုဆောက်လုပ်ရေးပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ အဆင့်အတန်း မြင့် စံချိန်မီပစ္စည်းများ အသုံးပြုရန်အတွက် ပြည်ပမှဝယ်ယူတင်သွင်းသွားမည်ဖြစ်ပါသည်။ ယင်းသို့ တင်သွင်းရာတွင် သွင်းကုန်စနစ်ဖြင့် မှာယူတင်သွင်းသွားမည်ဖြစ်ပါသည်။ တင်သွင်းလာသောပစ္စည်းများ စံချိန်မီခြင်းရှိ/မရှိ၊ အပြစ်အနာ အဆာရှိ/မရှိကို ကုမ္ပဏီ၏ဒါရိုက်တာအဖွဲ့ဝင်(၂)ဦးနှင့် ပညာရှင်(၁)ဦး ပါဝင်သောအဖွဲ့မှ စစ်ဆေးလက်ခံသွားမည်ဖြစ်ပါ သည်။

ဝင်ငွေရရှိနိုင်မှုနှင့် အရင်းကြေကာလ ခန့်မှန်းတွက်ချက်ခြင်း

၈။ ဗိုလ်နက်ကျော်ကျွန်းတွင် ဘန်ကလိုနှင့် အပန်းဖြေစခန်းများတည်ဆောက်ပြီးစီးပါက ပြည်တွင်း၊ ပြည်ပခရီးသွား ဧည့်သည်များ တည်းခိုနားနေ အပန်းဖြေနိုင်ပြီး ဝင်ငွေအဖြစ် တစ်နှစ်လျှင် ကျပ်သိန်း(၃၀၃၂) ရရှိနိုင်မည်ဖြစ်ပါသည်။ နှစ်အလိုက်ရရှိမည့် ဝင်ငွေအသေးစိတ်ခန့်မှန်းတွက်ချက်မှုများအရ ယင်းဟိုတယ်လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအရင်းကြေ ကာလမှာ (၁၂)နှစ်ရှိကြောင်းနှင့် အသေးစိတ်ခန့်မှန်းတွက်ချက်မှုဇယားအား နောက်ဆက်တွဲဇယားများဖြင့် ပူးတွဲတင်ပြ ထားပါသည်။

ပြည်တွင်း/ပြည်ပ ခရီးသွားလုပ်ငန်းများနှင့် ချိတ်ဆက်ထားရှိသည့် အခြေအနေ

၉။ K Future Hotel & Tours Co., Ltd သည်ဗိုလ်နက်ကျော်ကျွန်းအပန်းဖြေစခန်းလုပ်ငန်းအတွက် ပြည်တွင်းခရီး သွားလုပ်ငန်းများနှင့် ချိတ်ဆက်ထားပြီး ရန်ကုန်မြို့မှ လေယာဉ်ခရီးစဉ်များဖြင့် အဓိကသယ်ယူပြီး ကျွန်းအရောက်ပို့ ဆောင်ပေးသွားမည် ဖြစ်ပါသည်။ ထို့အပြင် ထိုင်းနိုင်ငံနှင့် စင်ကာပူနိုင်ငံများရှိ ခရီးသွားလုပ်ငန်းများ၊ ကုမ္ပဏီများနှင့်

ချိတ်ဆက်၍ ကော့သောင်းဒေသနှင့် ကျွန်းများသို့ အပန်းဖြေအနားယူနိုင်ရန်နှင့်ရေအောက်သဘာဝရှုခင်းများ လေ့လာနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ၎င်းအပြင် အခြားပြင်ပနိုင်ငံများရှိ ခရီးသွားကုမ္ပဏီများ၊ အပျော်စီးရွက်လှေကုမ္ပဏီများနှင့်လည်း ဆက်သွယ်ဆောင်ရွက်နိုင်ရန် စီစဉ်ဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

ခရီးသွားဧည့်သည်များအား အပန်းဖြေလုပ်ငန်းအပြင် အခြားဝန်ဆောင်မှုပေးခြင်း

၁၀။ ဗိုလ်နက်ကျော်ကျွန်းဘန်ဂလိုနှင့် အပန်းဖြေစခန်းသို့ လာရောက်သည့် နိုင်ငံခြားသားဧည့်သည်များအား အပန်းဖြေနားနေမှုအပြင် အောက်ပါဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ပေးရန် စီစဉ်ထားပြီး ဖြစ်ပါသည် -

(က) ကော့သောင်းမြို့ရှိ အထင်ကရရှိသော ဘုရားများ၊ ဘုရင့်နောင်တောတန်း၊ ဘုရင့်နောင်အငူသို့ ဧည့်ကြိုကားဖြင့် ပို့ဆောင်ပေးခြင်း။

(ခ) မလိဝမ်းရေပူစမ်း၊ မလိဝမ်းရေတံခွန်အပန်းဖြေစခန်းများနှင့် ကျေးရွာများသို့ လှည့်လည်ပြသပေးခြင်း။

(ဂ) မြောက်ဖြူကျွန်း၊ မြောက်နီကျွန်း၊ ခရင်းခွကျွန်းနှင့် အခြားကျွန်းများသို့ ကုမ္ပဏီပိုင်အမြန်သင်္ဘောဖြင့် လှည့်လည်ပို့ဆောင်ပေးခြင်း။

(ဃ) ဗိုလ်နက်ကျော်ကျွန်းရှိ ဘန်ဂလိုများတွင် ညအိပ်တည်းခိုစားသောက်ပြီး ကျွန်းပတ်ဝန်းကျင်၌ ရေကူးခြင်း၊ ရေငုပ်ခြင်း၊ သဘာဝရှုခင်းများနှင့် သန္တာကျောက်တန်းများ လေ့လာခြင်း၊ ရေအောက်သတ္တဝါများကို ကြည့်ရှုခြင်း။

အန္တရာယ်ကာကွယ်ရေးဆောင်ရွက်မှု

၁၁။ ဗိုလ်နက်ကျော်ကျွန်းအပန်းဖြေစခန်းတွင် ခရီးသွားဧည့်သည်များ အန္တရာယ်ကင်းရှင်းစွာ တည်းခိုနားနေနိုင်ရန်အတွက် ဘန်ဂလိုများတွင် မီးဘေးကြိုတင်သတိပေးစနစ်များ တပ်ဆင်ထားခြင်း၊ ကမ်းခြေတွင် ကယ်ဆယ်ရေးဝန်ထမ်းများ ခန့်ထား၍ စောင့်ကြည့်စေခြင်း၊ ဧည့်သည်များ မတော်တဆထိခိုက်ဖျားနာပါက ကုသပေးနိုင်ရန်အတွက် သူနာပြုနှင့် ဆေးဝါးကျွမ်းကျင်သူများအား ဝန်ထမ်းခန့်ထားဆောင်ရွက်ပေးခြင်း၊ အရေးပေါ်ဆေးဝါးပစ္စည်းများ အလုံအလောက်ထားရှိခြင်း စသည့်အန္တရာယ်ကာကွယ်မှုစနစ်များကို ထားရှိဆောင်ရွက်သွားမည် ဖြစ်ပါသည်။

အကျိုးအမြတ်ရရှိနိုင်မှုအခြေအနေ

၁၂။ ဗိုလ်နက်ကျော်ကျွန်းဟိုတယ်သည် မြန်မာ့ရေပိုင်နက်အတွင်းရှိ မြိတ်ကျွန်းစု သဘာဝရှုခင်းအလှအပများနှင့် ရေအောက်ရှုခင်းအလှအပများကို နိုင်ငံခြားသားခရီးသွားဧည့်သည်များ အနားယူခံစားနိုင်စေခြင်းဖြင့် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိစေရန် လုပ်ကိုင်ဆောင်ရွက်ခြင်း ဖြစ်ပါသည်။ ထို့ကြောင့် အကျိုးအမြတ်ရရှိနိုင်မှုအနေအထားကို တွက်ချက်ခန့်မှန်းကြည့်ရာတွင် အောက်ပါအကျိုးအမြတ်များ ရရှိနိုင်မည် ဖြစ်ပါသည်။

(က) ကုမ္ပဏီအကျိုးအမြတ်ရရှိနိုင်မှုအခြေအနေ။ ကုမ္ပဏီအတွက် အရင်းကြေကာအပြီး တစ်နှစ်လျှင် အသားတင်အမြတ်အဖြစ် မြန်မာကျပ်ငွေကျပ်သိန်း(၈၅၅)အား လည်းကောင်း နှစ်စဉ်ရရှိနိုင်မည် ဖြစ်ပါသည်။

(ခ) ဒေသအတွက် အကျိုးဖြစ်ထွန်းမည့် အခြေအနေ။ ဗိုလ်နက်ကျော်ကျွန်း ဘန်ဂလိုနှင့် အပန်းဖြေစခန်း လုပ်ငန်းတည်ဆောက်လုပ်ကိုင်ခြင်းဖြင့် ကော့သောင်းမြို့နယ်အတွင်းရှိ ဘွဲ့ရပညာတတ်လူငယ်များ၊ အခြေခံလုပ်သားများကို အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်ယုံမျှမက ဒေသခံလုပ်သားပြည်သူများ၏ ဒေသထွက်ကုန်လက်မှုပစ္စည်း၊ ရိုးရာအစားအသောက်များ ရောင်းဝယ်ဖောက်ကားနိုင်မည့် အခွင့်အလမ်းများ၊ ရရှိခံစားရမည်ဖြစ်ပါသည်။ ထို့အပြင် ကော့သောင်းမြို့ရှိ သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ၊ ခရီးသွားလုပ်ငန်းများလည်း ဝင်ငွေရရှိလာမည်ဖြစ်သည့်အပြင် အိမ်နီးချင်းထိုင်းနိုင်ငံမှ ဧည့်သည်များလည်း အလည်အပတ်လာရောက်ခြင်းဖြင့် နှစ်နိုင်ငံချစ်ကြည်ရင်းနှီးမှု တိုးပွားလာမည် ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိမှုနှင့် အခွန်အခများ ရရှိနိုင်မှုအခြေအနေ။ ဗိုလ်နက်ကျော်ကျွန်းဘန်ဂလိုနှင့် အပန်းဖြေလုပ်ငန်း စခန်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် နိုင်ငံခြားသားခရီးသွားဧည့်သည်များ ပိုမိုဝင်ရောက်လာနိုင်ပြီး နိုင်ငံတော်အတွက် ကုန်သွယ်ခွန်အားလည်းကောင်း၊ ဝင်ငွေခွန်အားလည်းကောင်း ရရှိနိုင်မည် ဖြစ်ပါသည်။ ထို့အပြင် နိုင်ငံခြားသားများ ဝင်ရောက်မှုနှင့် ပတ်သက်၍ နိုင်ငံတော်မှနိုင်ငံခြားသားများဝင်ရောက်မှု ဗီဇာခ၊ ဆိပ်ကမ်းခ၊ ပို့ဆောင်ဆက်သွယ်ရေးခနှင့် ဟိုတယ်နှင့်ခရီးလိုင်စင်ကြေးများလည်း ရရှိနိုင်မည်ဖြစ်ပါသည်။

အလုပ်အကိုင်အခွင့်အလမ်းပေးနိုင်မှုအခြေအနေ

၁၃။ ဗိုလ်နက်ကျော်ကျွန်းဟိုတယ် တည်ဆောက်ပြီးစီးပါက ကော့သောင်းဒေသအတွင်းရှိ ဝန်ထမ်းဦးရေ(၆၀)ဦးကျော်အား အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်မည် ဖြစ်ပါသည်။ ထို့အပြင် ဟိုတယ်လုပ်ငန်းနှင့် ဆက်စပ်လျက်ရှိသည့် ဧည့်လမ်းညွှန်လုပ်ငန်း၊ အမှတ်တရအရောင်းဆိုင်လုပ်ငန်း၊ ဒေသထွက်စားသောက်ကုန်ပစ္စည်းများရောင်းချမှုလုပ်ငန်း၊ အငှားယာဉ်လုပ်ငန်း၊ ဒေသထွက်ကုန်ထုတ်လုပ်မှုလုပ်ငန်းများတွင်လည်း အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်မည်ဖြစ်ပါသည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းအစီအမံများ

၁၄။ ဗိုလ်နက်ကျော်ကျွန်းဘန်ဂလိုနှင့် အပန်းဖြေစခန်းလုပ်ငန်းသည် မြန်မာနိုင်ငံ၏ ပင်လယ်သဘာဝ၊ ရှုခင်းအလှအပများနှင့် ရေအောက်သဘာဝရှုခင်းများ၊ ရေနေသတ္တဝါဇီဝမျိုးစိပ်များကို ခရီးသွားဧည့်သည်နိုင်ငံခြားသားများအား ကြည့်ရှုလေ့လာရန်အတွက်အဓိကဝန်ဆောင်မှုပေးသည့်လုပ်ငန်းတစ်ခုဖြစ်ပါသည်။ယင်းသဘာဝရှုခင်းအလှအပကြောင့်

သာလျှင် နိုင်ငံခြားသား ခရီးသွားဧည့်သည်များလာရောက်လည်ပတ်လေ့လာမည် ဖြစ်သဖြင့် ကျွန်းပေါ်ရှိ သဘာဝ ကမ်းခြေအလှအပများကို မပျက်စီးစေရန် ထိန်းသိမ်းပြုပြင်ခြင်း၊ နိုင်ငံခြားသားများကြည့်ရှုလေ့လာရန် ခွင့်ပြုထားသော ပင်လယ်ရေအောက်သန္တာကျောက်ခက် ပြုပြင်ခြင်း၊ နိုင်ငံခြားသားများ ကြည့်ရှုလေ့လာရန် ခွင့်ပြုထားသော ပင်လယ်ရေ အောက်သန္တာကျောက်ခက်များနှင့် ရေအောက်သတ္တဝါများ သေကျေမျိုးတုန်းမသွားစေရေး ထိန်းသိမ်းစောင့်ရှောက်ခြင်း အစီအမံများကို ကျွမ်းကျင်သည့် အဏ္ဏဝါဇီဝပညာရှင်များ ငှားရမ်းကာ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့အပြင် အပန်းဖြေလုပ်ငန်းမှထွက်ရှိလာသော ရေဆိုးရေညစ်များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရေးအတွက် ရေဆိုးရေသန့်စင်သည့်ကန်ထားရှိခြင်း၊ စွန့်ပစ်ပစ္စည်းများ စနစ်တကျထိန်းသိမ်းခြင်း စသည့် အစီအမံများ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လုပ်ငန်းဆောင်ရွက်မှုအပေါ် ကတိဝန်ခံခြင်း

၁၅။ K Future Co., Ltd ၏ ဗိုလ်နက်ကျော်ကျွန်း ဟိုတယ်အပန်းဖြေလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှပိုင်ဆိုင်မှု၊ ထောက်ပံ့မှုမရှိပါကြောင်းနှင့် အောက်ဖော်ပြပါအချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည် -

(က) လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုထားသည့် လုပ်ငန်းအမျိုးအစားနှင့် ဆက်နွယ်လျက်ရှိသော စီးပွားရေးလုပ်ငန်းများကိုသာ လုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ခ) လုပ်ပိုင်ခွင့်နှင့် အသုံးပြုခွင့်ရယူထားသော မြေပေါ်တွင် မြေပေါ်/ မြေအောက် သယံဇာတပစ္စည်းများကို တူးဖော်ထုတ်ယူခြင်း မပြုပါ။

(ဂ) လုပ်ပိုင်ခွင့်နှင့် အသုံးပြုခွင့်ရယူထားသော မြေအတွက် မြေအခွန်အခများကို ကြွေးကျန်မရှိ အပြည့်အဝ ပေးဆောင်ပါမည်။

(ဃ) လုပ်ကိုင်ခွင့်ပြုထားသော မြေနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ သတ်မှတ်ထားသော စည်းကမ်းများနှင့် မူဝါဒလမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားပါမည်။

(င) လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပေါ်စေရန်နှင့် ရေဆိုးရေညစ်များ သဘာဝပတ်ဝန်းကျင်မထိခိုက်စေရန်အတွက် လိုအပ်သော ကြိုတင်ကာကွယ်မှုအစီအမံများကိုပြုလုပ်သွားမည်ဖြစ်ကြောင်းနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုရေအောက် သယံဇာတပျက်စီးမှုများ မဖြစ်ပွားစေရန် အထူးအလေးထား ဂရုစိုက်ကြပ်မတ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(စ) ကုမ္ပဏီအနေဖြင့် လုပ်ငန်းမှရရှိလာသော နိုင်ငံခြားငွေများကို မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ် (MICB) သို့မဟုတ် မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ် (MFTB) များမှ တဆင့် နိုင်ငံခြားငွေစာရင်းဖွင့်လှစ်ခွင့်ရရှိထားသော ပုဂ္ဂလိကဘဏ်များထံသို့ လွှဲပို့လက်ခံရယူပြီးမှ သာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဆ) ကုန်ပစ္စည်း အရောင်းမြှင့်တင်ရေးအတွက် လည်းကောင်း၊ အခကြေးငွေရယူ၍ လည်းကောင်း ဟိုတယ် အဆောက်အဦများတွင် Stage Show, Fashion Show နှင့် Model Show များ ပြုလုပ်ရာတွင် အမျိုးသားယဉ်ကျေးမှု မပျက်စီးအောင် ထိန်းသိမ်းသွားနိုင်ရေးအတွက်လည်းကောင်း သက်ဆိုင်ရာဌာန အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို အလေးထား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

ရှေ့လုပ်ငန်းစဉ်များ

၁၆။ K Future Co., Ltd ၏ ဗိုလ်နက်ကျော်ကျွန်း ဟိုတယ်အပန်းဖြေလုပ်ငန်းသည် ဒေသတွင်းခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်စေရန်အတွက် ဟိုတယ်လုပ်ငန်းနှင့် ခရီးသွားလုပ်ငန်းကို အဓိကလုပ်ငန်းအဖြစ် လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့ကြောင့် ခရီးသွားလုပ်ငန်းနှင့် ဆက်စပ်လျှက်ရှိသော လုပ်ငန်းများကို ရှေ့လုပ်ငန်းစဉ်အဖြစ် အောက်ပါအတိုင်း ဆက်လက်လုပ်ကိုင်သွားရန် ရည်မှန်းချက်ချထားပါသည် -

(က) ကော့သောင်းမြို့၊ ဟိုတယ်နှင့် အပန်းဖြေစခန်းလုပ်ငန်းများကိုပါ ဆက်လက်တည်ဆောက်သွားမည် ဖြစ်ပါသည်။

(ခ) ပြည်တွင်းခရီးသွားကုမ္ပဏီများနှင့် ချိတ်ဆက်၍ -

(၁) အထက်မြန်မာပြည် ပုဂံ၊ ညောင်ဦး၊ ပုပ္ပါး၊ အင်းလေး ခရီးစဉ်အားလည်းကောင်း၊

(၂) ချောင်းသာ၊ ငပလီ၊ ရခိုင် ခရီးစဉ်အား လည်းကောင်း၊

(၃) အောက်မြန်မာပြည် ပဲခူး၊ မော်လမြိုင်၊ စက်စဲ ခရီးစဉ်အား လည်းကောင်း၊

(၄) ကော့သောင်းမြို့မှ ဗိုလ်နက်ကျော်ကျွန်းနှင့် အခြားပတ်ဝန်းကျင်ကျွန်းများတွင် အပန်းဖြေ အနားယူခြင်း၊ ရေငုပ်ခြင်း၊ သဘာဝသယံဇာတများအား လေ့လာခြင်းများ ဆောင်ရွက်ပြီး မြိတ်မြို့ထိ ခရီးစဉ်အား လည်းကောင်း၊

(၅) ကော့သောင်းမြို့ ကျွန်းများမှတဆင့် မြိတ်-ထားဝယ် ခရီးစဉ်အား လည်းကောင်း၊

အထွေထွေ

၁၇။ K Future Co., Ltd သည် နှစ်စဉ်နိုင်ငံတော်သို့ ပေးသွင်းရမည့် အခွန်အခများကိုလည်း နှစ်စဉ် မှန်မှန်ကြွေးကျန်မရှိပေးသွင်းနိုင်သော ကုမ္ပဏီတစ်ခုလည်း ဖြစ်ပါသည်။ ယခုအခါ K Future Co., Ltd သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းများကို လုပ်ငန်းခွဲတစ်ခုအနေဖြင့် လုပ်ကိုင်ဆောင်ရွက်ခြင်းဖြစ်ပါသည်။ လုပ်ငန်းအတွက် ရင်းနှီးမတည်ငွေကို ပင်မကုမ္ပဏီ၏ ငွေစာရင်းမှ ထုတ်ယူပြီး လုပ်ငန်းခွဲရင်းနှီးမြှုပ်နှံငွေအဖြစ် မတည်လုပ်ကိုင်သွားမည်ဖြစ်ပါသည်။ ကျွန်တော်တို့၏ ကုမ္ပဏီသည်ကော့သောင်းမြို့တွင် အတည်တကျနေထိုင်သော ဒေသခံများပါဝင်သည့်အလျောက် ကော့သောင်းမြို့နယ် ဖွံ့ဖြိုးတိုးတက်ရေးနှင့် ဒေသခံပြည်သူများ အလုပ်အကိုင်ရရှိရေးကို အဓိကထားလုပ်ကိုင်ဆောင်ရွက်သွားမည့် ကုမ္ပဏီတစ်ခုဖြစ်ပါသည်။

နိဂုံး

၁၈။ K Future Co., Ltd ကောသောင်းမြို့သည် နိုင်ငံတော်၏ရည်မှန်းချက်ဖြစ်သော ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း တိုးတက်ဖွံ့ဖြိုးရေးကို အလေးထားဆောင်ရွက်သည့်အနေဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်းတွင် ဘန်ဂလိုနှင့်အပန်းဖြေစခန်းလုပ်ငန်းကို နိုင်ငံတကာအဆင့်မီ လုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ယင်းလုပ်ငန်းသည် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိမည့် လုပ်ငန်းဖြစ်သည့်အပြင် ဒေသတွင်း စီးပွားရေးလုပ်ငန်းများကိုပါ တစ်ဖက်တစ်လမ်းမှ အကျိုးဖြစ်ထွန်းစေမည့်လုပ်ငန်းဖြစ်ပါသည်။ ထို့ကြောင့် ကုမ္ပဏီအနေဖြင့် နိုင်ငံတော်မှချမှတ်ထားသော ဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်း၊ လမ်းညွှန်ချက်များကို အလေးထား လိုက်နာပြီး လုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

တနင်္သာရီတိုင်းဒေသကြီး

ကော့သောင်းခရိုင်

ကော့သောင်းမြို့

# K Future Co., Ltd

အကြောင်းအရာ။ ။ ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ်
ကြိုတင်ကာကွယ်ရေးစီမံချက်

ရက်စွဲ၊ . . .၂၀၁၅

# *K Future Co., Ltd*

## ဗိုလ်နက်ကျောက်ကျွန်း ဟိုတယ်

## ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ်

## ကြိုတင်ကာကွယ်ရေးစီမံချက်

နိဒါန်း

၁။ ဗိုလ်နက်ကျောက်ကျွန်းဟိုတယ်သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့မှ (၄၅)မိုင်ကွာဝေးပြီး ဟိုတယ်တွင်လာရောက်တည်းခိုကြမည့် ပြည်တွင်း/ပြည်ပမှ ဧည့်သည်များ၊ အဆောက်အဦများနှင့် ဟိုတယ်အသုံးအဆောင်ပစ္စည်းများကို မီးဘေးအန္တရာယ်နှင့် သဘာဝဘေးအန္တရာယ်တို့မှ ကင်းဝေးစေရန် ရည်ရွယ်၍ ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ကို ရေးဆွဲရခြင်း ဖြစ်ပါသည်။

သတင်း

၂။ အဆောက်အဦအခြေအနေ။ အုတ်ကြွပ်မိုး၊ သွပ်မိုး၊ အုတ်ကာဘန်ဂလိုများဖြစ်ပြီး အဆောက်အဦ(၃၆)လုံးဖြင့် ဖွဲ့စည်းတည်ဆောက်ထားပါသည်။

၃။ ဝန်ထမ်းအင်အား။ ဟိုတယ်အုပ်ချုပ်မှုနှင့် ဝန်ထမ်း(၅၇)ဦးဖြင့် လုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ရေရရှိရေး။ ကျွန်းမှ ရေချိုနှင့် ပင်လယ်မှ ရေငန်များ ရရှိနိုင်ပါသည်။

၅။ မီးငြိမ်းသတ်ရေးပစ္စည်းကိရိယာများ။ ဘန်ဂလိုတိုင်းတွင် ဓါတုဗေဒမီးသတ်ဆေးဘူးများနှင့် အပေါ့စားမီးသတ်ရေစုပ်စက် (၁)လုံး ထားရှိပါမည်။

၆။ လျှပ်စစ်မီး။ နေရောင်ခြည်စွမ်းအင်(ဆိုလာ)နှင့် မီးစက်ဖြင့် လျှပ်စစ်ဓါတ်အားရရှိရေး ဆောင်ရွက်သွားပါမည်။

၇။ သဘာဝဘေးအန္တရာယ်။ ပင်လယ်ကျွန်းဖြစ်သည့်အတွက် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားကျရောက်နိုင်ပါသည်။

၈။ မီးလောင်မှုဖြစ်ပွားနိုင်သော အချက်အလက်များ

အောက်ဖော်ပြပါ အချက်အလက်များကြောင့် မီးလောင်မှုများ ဖြစ်ပွားနိုင်ပါသည် -

(က) လျှပ်စစ်ဓါတ်အားပိုမိုသုံးစွဲခြင်း၊ ဝါယာရှော့ဖြစ်ခြင်း။

(ခ) ဧည့်သည်များ၏ စီးကရက် မီးကြွင်းမီးကျန်မှ လောင်ကျွမ်းခြင်း။

(ဂ) တောမီးမှ ကူးစက်လောင်ကျွမ်းခြင်း။

(ဃ) လေပြင်းများတိုက်ခတ်ခြင်း မိုးကြိုးပစ်ခြင်းကြောင့် မီးလောင်ကျွမ်းခြင်း။

လုပ်နည်း

၉။ အကြမ်းဖျဉ်းစီမံချက်။ အောက်ပါအတိုင်း အပိုင်း(၃)ပိုင်းခွဲ၍ ဆောင်ရွက်သွားပါမည် -

(က) အပိုင်း(၁)။ မီးဘေးနှင့်သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ခြင်း။

(ခ) အပိုင်း(၂)။ မီးလောင်မှုနှင့် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားပါက ဆောင်ရွက်ခြင်း။

(ဂ) အပိုင်း(၃)။ မီးလောင်မှုဖြစ်ပွားပြီးနှင့် သဘာဝဘေးအန္တရာယ်ကျရောက်ပြီးနောက် ဆောင်ရွက်ခြင်း။

၁၀။ အသေးစိတ်စီမံချက်။ အောက်ပါအတိုင်းဆောင်ရွက်သွားပါမည် -

(က) အပိုင်း(၁)။ မီးဘေးနှင့်သဘာဝဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်း။ နေ့စဉ်အခန်းသန့်ရှင်းရေးဝန်ထမ်းများအား ဧည့်သည်များ၏ စီးကရက်မီးကြွင်းမီးကျန်များ သန့်ရှင်းခြင်း၊ မလိုအပ်သော မီးခလုတ်များပိတ်ခြင်း၊ မီးထိန်းစက် (Save Guard)၊ ရေပူရေအေးပေးစက်များ စစ်ဆေးခြင်း၊ မီးတားလမ်းများ ဖောက်လုပ်ထားခြင်း၊ အသက်ကယ်အကျႌ ၊ အသက်ကယ်လှေများထားရှိခြင်း၊ သဘာဝဘေးအန္တရာယ်များ ကျရောက်ပါက အန္တရာယ်ကင်းနေရာသို့ သွားရောက်နိုင်ရန် လမ်းညွှန်အမှတ်အသားများ ထားရှိခြင်း၊ ဧည့်သည်များ မီးသတိမူရေး လိုက်နာရန်အချက်များ၊ သဘာဝဘေးအန္တရာယ်များ ကျရောက်ပါကဆောင်ရွက်ရမည့်အချက်များအား ဘန်ဂလိုတိုင်းတွင် ထားရှိပေးခြင်း၊ ဝန်ထမ်းများအား မီးဘေးအန္တရာယ်နှင့် သဘာဝဘေးအန္တရာယ်များ ကျရောက်ပါက ဆောင်ရွက်ရမည့်အချက်များအား ဇာတ်တိုက်လေ့ကျင့်ခြင်း၊ မိုးတွင်းကာလ ရိက္ခာနှင့် လိုအပ်သောပစ္စည်းများ စုဆောင်းထားခြင်းနှင့် မိုးလေဝသ သတင်းထုတ်ပြန်ကြေငြာချက်များအား အချိန်နှင့်တပြေးညီရရှိရေး ဆောင်ရွက်သွားမည်။

(ခ) အပိုင်း(၂)။ မီးလောင်မှုနှင့် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားပါက ဆောင်ရွက်ခြင်း။

အောက်ပါအတိုင်းဆောင်ရွက်သွားမည် -

(၁) မီးငြိမ်းသတ်ရေးအဖွဲ့။ ဟိုတယ်လုံခြုံရေးဝန်ထမ်းနှင့် ဟိုတယ်ဝန်ထမ်း(၂၀)ဦးတို့မှ မီးလောင်မှုအချက်ပေးသံကြားသည်နှင့် မီးလောင်ရာနေရာသို့ သွားရောက်၍ မီးသတ်ဆေးဘူး၊ ရေ (သို့) ပင်လယ်ရေအား မီးသတ်ရေစုပ်စက် အကူအညီဖြင့် ငြိမ်းသတ်ရေးဆောင်ရွက်မည်။

(၂) ကယ်ဆယ်ရေးအဖွဲ့။ ကယ်ဆယ်ရေးအဖွဲ့အား ဝန်ထမ်းအင်အား(၂၀)ဦးဖြင့် ဖွဲ့စည်းမည်ဖြစ်ပြီး မီးလောင်မှုနှင့် သဘာဝဘေးအန္တရာယ်များ ကျရောက်ပါက ဧည့်သည်နှင့်ဝန်ထမ်းများ၊ မိသားစုများ၊ ဟိုတယ်ပစ္စည်းများအား မီးလွတ်ရာနှင့် သဘာဝဘေးအန္တရာယ်လွတ်ကင်းရာနေရာသို့ရွှေ့ပြောင်းပေးခြင်း၊ လိုအပ်သော ရိက္ခာနှင့်အသုံးအဆောင်ပစ္စည်းများအား သယ်ယူခြင်းများ ဆောင်ရွက်သွားပါမည်။

(၃) ဆက်သွယ်ရေးအဖွဲ့။ ဟိုတယ်မန်နေဂျာနှင့် ရုံးဝန်ထမ်းများသည် အနီးစပ်ဆုံး လုံခြုံရေးအဖွဲ့အစည်းများဖြစ်သော တပ်မတော်(ရေ)၊ ပင်လယ်ပြင်စိုးမိုးရေးတပ်များသို့လည်းကောင်း၊ အနီးဆုံးကျေးရွာအုပ်ချုပ်ရေးမှူးထံသို့လည်းကောင်း၊ တယ်လီဖုန်း(CDMA)၊ လက်ကိုင်စကားပြောစက်၊ (E-mail)များဖြင့် သတင်းပို့ဆောင်ရွက်ပြီး လိုအပ်သော စီမံခန့်ခွဲမှုနှင့် အကူအညီများ ရရှိရေး ဆောင်ရွက်သွားပါမည်။

(ဂ) အပိုင်း(၃)။ မီးလောင်မှုဖြစ်ပွားပြီး သဘာဝဘေးအန္တရာယ် ကျရောက်ပြီးနောက် ဆောင်ရွက်ခြင်း။

မီးလောင်မှုသော်လည်းကောင်း၊ သဘာဝဘေးအန္တရာယ် ကျရောက်ခဲ့ပြီးချိန်တွင် ဧည့်သည်စာရင်းစစ်ဆေးခြင်း၊ ဝန်ထမ်းအင်အားစစ်ဆေးခြင်း၊ ထိခိုက်ဒဏ်ရာရမှု ရှိ/မရှိ စစ်ဆေးခြင်းများ ဆောင်ရွက်ပြီး ထိခိုက်ဒဏ်ရာရ ပျောက်ဆုံးမှုများရှိပါက ကုသခြင်း၊ ရှာဖွေခြင်းများ ဆောင်ရွက်သွားမည်။ လူနှင့် ပစ္စည်းဆုံးရှုံးမှုစာရင်း ကောက်ယူခြင်းများ ဆောင်ရွက်ပြီးပါက ဒေသဆိုင်ရာ အစိုးရအဖွဲ့အား ဖြစ်စဉ်သတင်းပို့ခြင်း၊ အကူအညီတောင်းခံခြင်း၊ နေရာပြန်လည်ချထားခြင်းများ ဆောင်ရွက်သွားပါမည်။

## ၁၂။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၂-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ - သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီး ဘေး၊ မြေငလျင်ဘေးစသည့်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့်စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိ ဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။

ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ လုပ်ကိုင်ခွင့်ပြုသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

## ၁၃။ အငြင်းပွားမှု ဖြေရှင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းစေမည်။ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်ဖက်တစ်ဦးစီခန့်ထားသောခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံရုံးလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံရုံးလူကြီးနှစ်ဦး(သို့မဟုတ်)သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ် မြန်မာနိုင်ငံအနညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံတော်ဥပဒေအမှတ် - ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ထားဝယ်မြို့ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## ၁၄။ စာချုပ်အားပြင်ဆင်ခြင်း

၁၄-၁ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာဖြင့်ရေးသားလျက် ပြင်ဆင်နိုင်သည်။ အဆိုပါပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြ၍ ခွင့်ပြုချက် ရယူဆောင်ရွက်ရမည်။

၁၅။ စာချုပ်ရုပ်စဲခြင်း

၁၅-၁ ဤသဘောတူစာချုပ်သည် အောက်ဖော်ပြပါအချက်များမှ အကြောင်းတစ်ရပ်ကြောင့်ဖြစ်စေ၊ တစ်ခုထက်ပိုသော အကြောင်းများကြောင့်ဖြစ်စေ ဖြစ်ပေါ်လာပါက စာချုပ်အားရုပ်စဲနိုင်သည်-

(က) စာချုပ်ဝင်များ နှစ်ဖက်အပြန်အလှန်သဘောတူညီချက်ဖြင့်ရုပ်စဲခြင်း။

(ခ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် မစွမ်းဆောင်နိုင်တော့ခြင်း။

(ဂ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်အား ဖောက်ဖျက်ခြင်း။

(ဃ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်ပေါ်ခြင်းကြောင့် လုပ်ငန်းဆောင်ရွက်မှုကို ရပ်နားထားခဲ့ရသည့် ကာလသည် (၁၂) လထက် ကျော်လွန်သွားခြင်း။

(င) ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏မြေငှားရမ်းခြင်းစာချုပ်၏ အစိတ်အပိုင်းတစ်ခု ဖြစ်သည့်အားလျော်စွာ အဆိုပါမြေငှားရမ်းခြင်းစာချုပ်မှာ ဆက်လက်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ခြင်း မရှိတော့သည့်အတွက် ဤစာချုပ်မှာလည်း ရုပ်စဲသွားခြင်း။

(စ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တည်ဆောက်ရေးလုပ်ငန်းများကို စတင်ဆောင်ရွက်ရမည်ဖြစ်သော်လည်း လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃၆၅) ရက်အတွင်း လုံးဝ စတင်လုပ်ကိုင်မှုမရှိခြင်း။

၁၅.၂ ဤစာချုပ်ရုပ်စဲပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းအရာပြည့်စုံစွာ ဖော်ပြလျက် တင်ပြရမည်။

၁၆။ မြေနှင့်အဆောက်အဦးများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၆-၁ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းကုန်ဆုံးသည့်အခါ (သို့မဟုတ်) တိုးမြှင့်သည့်သက်တမ်းများကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရုပ်စဲသည့်အခါ ယင်းနေ့များမှ ရက်ပေါင်း(၃ဂ)အတွင်း ငှားရမ်းသည့်မြေကို လုပ်ကိုင်ခွင့်ပြုသူထံသို့ မလွန်ဆန်နိုင်သောအချက်များကြောင့် မြေအနေအထား ပျက်စီးယိုယွင်းမှုများမှအပ မူလ မြေအနေအထား ပျက်စီးယိုယွင်းမှု မဖြစ်ပေါ်စေဘဲ အပ်နှံရပါမည်။

၁၆-၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းကုန်ဆုံးသည့်အခါ (သို့မဟုတ်) သက်တမ်းတိုးမြှင့်ခွင့်ရရှိသော်လည်း ယင်းကဲ့သို့တိုးမြှင့်သည့်ကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရုပ်စဲသည့်အခါ လုပ်ငန်းနှင့်ဆက်စပ်သည့် မရွှေ့ပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများအပါအဝင် ပစ္စည်းများအားလုံးကို အဖိုးစားနား (သို့မဟုတ်) ချွင်းချက်မရှိဘဲ လုပ်ကိုင်ခွင့်ပြုသူထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်။

## ၁၇။ မြေအဆောက်အဦများသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၇-၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကိုဆောင်ရွက်ရန်(သို့မဟုတ်)လိုက်နာရန် ပျက်ကွက်ပါက လုပ်ကိုင်ခွင့်ပြုသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်)လိုက်နာဆောင်ရွက်ရန် အကြောင်းကြားစာ ပေးပို့ရမည်။

၁၇-၂ လုပ်ကိုင်ခွင့်ရသူသည် ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် လုပ်ကိုင်ခွင့်ပြုသူက အကြောင်းကြားစာပေးပို့သော်လည်း အကြောင်းကြားစာပါကာလအတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် လိုက်နာမှုမရှိ မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိပါသည်။ သို့ရာတွင် ဝင်ရောက်လက်ဝယ်ရယူခြင်းမှာ လုပ်ကိုင်ခွင့်ပြုသူက လုပ်ကိုင်ခွင့်ရသူထံမှ ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၁၈။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်း

၁၈-၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့် ဧရိယာကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေပါ ပြဌာန်းချက်များနှင့်အညီ ကာကွယ်စောင့်ရှောက်ရန် တာဝန်ရှိပါသည်။

၁၈-၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် မြေဧရိယာ ပတ်ဝန်းကျင်၏ ရေထု၊ လေထု များအား သတ်မှတ်ထားသည့် စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင် ထိန်းသိမ်းခြင်း၊ တောတောင် ရေမြေ ဂေဟ စနစ်များ မထိခိုက် မပျက်စီးအောင် ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ခြင်း တို့ကို ပြုလုပ်ရပါမည်။

၁၈-၃ လုပ်ကိုင်ခွင့်ရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ စွန့်ပစ်အမှိုက်များနှင့် အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းရန် စီမံဆောင်ရွက်ခြင်း၊ သန့်စင်စနစ်များဖြင့် ဆောင်ရွက်ခြင်းတို့ကို အမြဲမပြတ် ဆောင်ရွက်ကာ သဘာဝပတ်ဝန်းကျင်အား မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရပါမည်။

## ၁၉။ သယံဇာတတွေ့ရှိခြင်း

၁၉-၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်သက်တမ်းအတွင်း အငှားချထားသည့်မြေပေါ်၊ မြေအောက်မှ အငှားချထားစဉ် သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ဓါတ်သတ္တုများ၊ ရေနံ၊ ဓာတုဆိုင်ရာပစ္စည်းများ အပါအဝင် အဖိုးတန်သော သဘာဝအရင်းအမြစ်များ တွေ့ရှိပါက လုပ်ငန်းဆောင်ရွက်မှုကို ချက်ချင်းရပ်ဆိုင်းပြီး လုပ်ကိုင်ခွင့်ပြုသူထံ အမြန်အကြောင်းကြား အသိပေးရမည်။ လုပ်ကိုင်ခွင့်ပြုသူမှ ညွှန်ကြားသည့်အတိုင်း ဆောင်ရွက်ရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် လုပ်ကိုင်ခွင့်ပြုသူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာ တူးဖော်ခွင့်ရှိစေရမည်။

## ၂၀။ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ

၂၀-၁ ဤသဘောတူစာချုပ်အပိုဒ် (၂-၃)ပါ အပန်းဖြေစခန်း တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့်ဝင်ငွေများထဲမှ အသားတင်အမြတ်၏ ၂% (နှစ်ရာခိုင်နှုန်း) (သို့မဟုတ်) ငွေကျပ် (၂၀,၀၀၀,၀၀၀/-) (ကျပ်သိန်းနှစ်ရာတိတိ) တို့ အနက်များရာပမာဏကို ဒေသဖွံ့ဖြိုးရေးရန်ပုံငွေအဖြစ်သတ်မှတ်လျက် လုပ်ကိုင်ခွင့်ရသူက လုပ်ငန်းဆောင်ရွက်ရာဒေသ၌ ဖွံ့ဖြိုးရေးလုပ်ငန်းများကို ဆောင်ရွက်ပေးရမည်။ ယင်းဒေသဖွံ့ဖြိုးရေးရန်ပုံငွေကို (၂)နှစ် (၁)ကြိမ် နှစ်ဖက်စုံညီ ညှိနှိုင်းလျက် အတိုး/အလျှော့ ပြုလုပ်ကြရန် ဖြစ်သည်။

၂၀-၂ လုပ်ကိုင်ခွင့်ပြုသူသည် ပေးသွင်းလာသည့် ဒေသဖွံ့ဖြိုးရေးရန်ပုံငွေဖြင့် ယင်းဒေသတွင် ဆောင်ရွက်သင့်သည့် ဖွံ့ဖြိုးရေးလုပ်ငန်းတစ်ရပ်ရပ်ကို ရွေးချယ်သတ်မှတ်ပြီး လုပ်ကိုင်ခွင့်ရသူအား တာဝန်ပေး၍ လုပ်ဆောင်စေနိုင်သည်။

## ၂၁။ အသိပေးခြင်း

၂၁-၁ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါ ဆက်သွယ်ရေးလမ်းကြောင်း အတိုင်းဆက်သွယ် အကြောင်းကြားရန် ဖြစ်ပါသည်။

(က) အကြောင်းကြားသည့် စနစ်များမှာ စာဖြင့်လည်းကောင်း ၊ တယ်လီဖုန်း ၊ ဖက်(စ်) ၊ အီးမေး(လ်) တို့ဖြင့်လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူးဆက်သားဖြင့် ဆက်သွယ်၍ လည်းကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

(ခ) ဆက်သွယ်ရန်လိပ်စာ

<u>လုပ်ကိုင်ခွင့်ပြုသူကိုယ်စား</u>

| | | |
|---|---|---|
| အမည် | - | ဦးတင်သိန်း |
| မှတ်ပုံတင်အမှတ် | - | ၇/တငန (နိုင်) ၀၀၆၀၆၇ |
| လိပ်စာ | - | အတွင်းရေးမှူး<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ထားဝယ်မြို့။ |
| ဖုန်းနံပါတ် | - | (၉၅)-၅၉-၂၃၅၅၆၊ ၀၉-၈၇၆၀၁၅၅။ |
| ဖက်(စ်) | - | (၉၅)-၅၉-၂၃၆၀၀ |

<u>လုပ်ကိုင်ခွင့်ရသူကိုယ်စား</u>

| | | |
|---|---|---|
| အမည် | - | ဒေါက်တာကောင်းကျော်ဆွေ |
| မှတ်ပုံတင်အမှတ် | - | ၁၂/မဂတ (နိုင်) ၁၃၂၄၂၀ |
| လိပ်စာ | - | ရန်ကုန်တိုင်းဒေသကြီး ၊ ရန်ကင်းမြို့နယ် ၊ ရန်အောင်(၆) လမ်း နှင့် ရန်အောင်(၇)လမ်း ကြား၊ ရန်ကင်းအိမ်ယာ ၊ တိုက် (၅/၃) အခန်း (၁) |
| ဖုန်းနံပါတ် | - | (၉၅)-၁-၅၅၃၇၃၇ ၊ ၀၉-၅၁၂၀၀၀၀၊ |
| ဖက်(စ်) | - | (၉၅)-၁-၅၅၃၇၃၇ |
| အီးမေး(လ်) | - | kfuture2010@gmail.com<br>dr.kaungkyawswe@gmail.com |

၂၂။ အထွေထွေ

၂၂-၂ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် အထက်ပါစည်းကမ်းချက်များ၊ အချက်အလက်များကို သဘောတူညီကြပြီး ဖြစ်သည့်အလျောက် ၂၀၁၆ ခုနှစ်၊ လ ( )ရက်နေ့တွင် အောက်ပါ သက်သေများ ရှေ့မှောက်၌ သဘောတူစာချုပ်ချုပ်ဆို၍ လက်မှတ်ရေးထိုးကြပါသည်။

| လုပ်ကိုင်ခွင့်ပြုသူ | လုပ်ကိုင်ခွင့်ရသူ |
| --- | --- |
| ဦးတင်သိန်း | ဒေါက်တာကောင်းကျော်ဆွေ |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | K Future Co.,Ltd. |
| ထားဝယ်မြို့။ | |

အသိသက်သေများ

| | | | |
| --- | --- | --- | --- |
| လက်မှတ် | -................................ | လက်မှတ် | -................................ |
| အမည် | -................................ | အမည် | -................................ |
| မှတ်ပုံတင် | -................................ | မှတ်ပုံတင် | -................................ |
| လိပ်စာ | -................................ | လိပ်စာ | -................................ |
| | -................................ | | -................................ |
| | -................................ | | -................................ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

*K Future Co., Ltd*

တို့အကြား

**ချုပ်ဆိုသော**

**ဗိုလ်နက်ကျောက်ကျွန်း**

**မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)**

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ လ၊ ( ) ရက်

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

K Future Co., Ltd

တို့အကြား

## ချုပ်ဆိုသောမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)

ဤ တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ၂၀၁၆ခုနှစ်၊ ...................... လ၊ (      )ရက်နေ့၌ ထားဝယ်မြို့တွင် ဦးတင်သိန်း၊ မှတ်ပုံတင်အမှတ် - ၇/တငန (နိုင်) ၀၀၆၀၆၇ ၊ အတွင်းရေးမှူး ၊ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့ ကိုယ်စားပြုသော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောင်တွင် **လုပ်ကိုင်ခွင့်ပြုသူ**ဟု ခေါ်ဝေါ်သုံးစွဲပါမည်။ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူတို့ ပါဝင်သည်။)

ကတစ်ဖက်နှင့်

ဒေါက်တာ ကောင်းကျော်ဆွေ ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ် - ၁၂/မရက (နိုင်)၁၃၂၄၂၀ ၊ မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး ၊ ရန်ကင်းမြို့နယ် ၊ ရန်အောင်(၆)လမ်း နှင့် (၇)လမ်းကြား၊ အခန်း (၁)၊ တိုက်အမှတ် (၅/၃)တွင် ရုံးခန်းဖွင့်လှစ်ထားရှိပြီး ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ တည်ထောင်ထားသည့် အစုရှယ်ယာများနှင့် ကန့်သတ် ထားရှိသော ပုဂ္ဂလိကကုမ္ပဏီဖြစ်သည့် K Future Co., Ltd (နောင်တွင် **လုပ်ကိုင်ခွင့်ရသူ** ခေါ်ဆိုပြီး၊ ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူနှင့် တရားဝင်ကိုယ်စားလှယ် တို့ ပါဝင်သည်။)

က အခြားတစ်ဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး ၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ အကျယ်အဝန်းဧက (၇၀၀) ခန့်ရှိသော ဗိုလ်နက်ကျော်ကျွန်းအား ငှားရမ်း၍ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစားပေး အဆင့်မြင့် ဟိုတယ်နှင့် အပန်းဖြေစခန်း ဆောက်လုပ်အကောင်အထည်ဖော် ဆောင်ရွက်သွားမည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို အောက်ပါစည်းကမ်းချက်များအား သဘောတူသဖြင့် ချုပ်ဆိုကြပါသည်။

## ၁။ ရည်ရွယ်ချက်

၁-၁ သဘာဝအခြေခံခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်စေရန်၊ ဒေသဆိုင်ရာခရီးသွားလုပ်ငန်းတိုးတက်စေရန် နှင့် နယ်မြေဒေသဖွံ့ဖြိုးတိုးတက်စေရန် ရည်ရွယ်၍ အပန်းဖြေစခန်း၊ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်သွားရန် ရည်ရွယ်ပါသည်။

## ၂။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၂-၁ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ် အတွင်းရှိ ဗိုလ်နက်ကျော်ကျွန်း အကျယ်အဝန်းဧက (၇၀၀) ခန့်ရှိ မြေပုံညွှန်းအမှတ် UTM-1098/02 (A-164676, B-172676, C-150662, D-161657) အားငှားရမ်း၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစားပေး အဆင့်မြင့် ဟိုတယ်နှင့် အပန်းဖြေစခန်း ဆောက်လုပ် အကောင်အထည်ဖော် ဆောင်ရွက်သွားမည့် တည်ဆောက် ၊ လုပ်ကိုင် ၊ လွှဲပြောင်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ဆိုသည်။ (မြေပုံများကို ဤစာချုပ်၏အစိတ်အပိုင်း တစ်ရပ်အဖြစ် နောက်ဆက်တွဲ(      ) ဖြင့် ဤစာချုပ်တွင် ပူးတွဲထားပါသည်။)

၂-၂ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ် ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ (၁) ရက်နေ့မှ နောင်နှစ် မတ်လ (၃၁) ရက်နေ့ အထိ (၁၂) လ တာ ကာလကို ဆိုသည်။

၂-၃ အဆင့်မြင့်ဟိုတယ်လုပ်ငန်းနှင့် အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့

အဆင့်မြင့်ဟိုတယ်လုပ်ငန်းနှင့် အပန်းဖြေစခန်းတရားဝင်ဖွင့်လှစ်သည့်နေ့ဆိုသည်မှာ ဟိုတယ် အဆောက်အဦးများ ဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများ စတင်လည်ပတ်ပြီး ၊ ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံဆောင်ရွက်သည့်နေ့ကို ဆိုသည်။

၂-၄ အသုံးပြုနိုင်သောမြေ

အသုံးပြုနိုင်သောမြေဆိုသည်မှာ အဆင့်မြင့်ဟိုတယ်လုပ်ငန်း၊ အပန်းဖြေစခန်းနှင့် ဆက်စပ်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကိုဆိုသည်။

၂-၅ အရန်ထားရှိသည့်မြေ

အရန်ထားရှိသည့်မြေ ဆိုသည်မှာ လက်ရှိအခြေအနေတွင် မည့်သည့်လုပ်ငန်းကိုမျှ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပဲ နောင်တစ်ချိန်တွင် အသုံးပြုလိုပါက အသုံးပြုနိုင်သောမြေအဖြစ် ပြောင်းလဲ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရန် သတ်မှတ်ထားသော မြေကိုဆိုသည်။

၂-၆ အကာအကွယ်ပေးထားသည့်မြေ

အကာအကွယ်ပေးထားသည့်မြေ ဆိုသည်မှာ အရန်ထားရှိသည့်မြေ၊ အသုံးပြုနိုင်သောမြေ အဖြစ်သို့ မည်သည့်အခါမှ မရောက်ရှိစေရ၊ ငှားရမ်းသည့် ကာလတစ်လျှောက်လုံးတွင် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်ကို မပျောက်မပျက်စေဘဲ မူလအတိုင်း ထိန်းသိမ်းထားရှိရမည့်မြေကိုဆိုသည်။

၂-၇ ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏ

ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏဆိုသည်မှာ ဤသဘောတူစာချုပ်ပါကိစ္စရပ်များကို အကောင်အထည်ဖော်ရာတွင် သုံးစွဲရန် ခန့်မှန်းတွက်ချက်ထားသည့် စုစုပေါင်းကုန်ကျမည့် ငွေကြေးပမာဏကို ဆိုသည်။

၂-၈ ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းများ

ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းဆိုသည်မှာ ငှားရမ်းမြေပေါ်တွင် အဆင့်မြင့်ဟိုတယ်နှင့် အပန်းဖြေစခန်းများ ဆောင်ရွက်ရာတွင် ပါဝင်မည့်ကနဦးဆောင်ရွက်သည့်အစိတ်အပိုင်းများ၊ ဆက်လက်ဆောင်ရွက်သွားမည့်လုပ်ငန်းများ၊ ထပ်မံဖြည့်စွက်သည့် လုပ်ငန်းများအပါအဝင်၊ တည်ဆောက်ရေးလုပ်ငန်းများ အားလုံးကို ဆိုသည်။

၂-၉ ဟိုတယ်လုပ်ငန်းဝင်ငွေအခြေခံတွက်ချက်မှု

ဟိုတယ်လုပ်ငန်းဝင်ငွေအခြေခံတွက်ချက်မှု ဆိုသည်မှာ ဟိုတယ်အခန်းတစ်ခန်း၏ တစ်ရက်ငှားရမ်းခနှုန်းကို ဟိုတယ်ရှိအခန်းအရေအတွက်နှင့် မြှောက်၍ ရရှိလာသော တစ်နေ့ဝင်ငွေကို တစ်နှစ်စာတွက်ချက်ပြီး ယင်းတစ်နှစ်ဝင်ငွေ၏ သုံးဆယ့်ငါးရာခိုင်နှုန်းကို တွက်ချက်ရယူထားသော နှုန်းကို ဆိုလိုသည်။

၃။ ရင်းနှီးမြှုပ်နှံမည့် ငွေကြေးပမာဏ

၃-၁ ဤသဘောတူစာချုပ်ပါ လုပ်ငန်းအတွက် ရင်းနှီးလုပ်ကိုင်မည့် ငွေကြေးပမာဏမှာ ဗိုလ်နက်ကျော်ကျွန်းအတွက် မြန်မာကျပ်ငွေ (၁,၀၀၀,၀၀၀,၀၀၀/-) (ကျပ် သိန်းပေါင်းတစ်သောင်း တိတိ) ဖြစ်ပါသည်။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုပမာဏကို လုပ်ကိုင်ခွင့်ရသူမှ ကျခံသုံးစွဲသွားပါမည်။ လုပ်ငန်းလိုအပ်ချက်အရ ရင်းနှီးမြှုပ်နှံမှုပမာဏ ပြောင်းလဲပြင်ဆင်ရန်လိုအပ်ပါက လုပ်ကိုင်ခွင့်ရသူသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ ကော်မရှင်၏ ခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်ရပါမည်။

၃-၂ လုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်သည့် အဖွဲ့အစည်းတစ်ခုဖြစ်ပြီး မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီတစ်ခုဖြစ်ပါကြောင်းနှင့် ဤလုပ်ငန်းဆောင်ရွက်ရန် ငွေကြေးအင်အား၊ အတတ်ပညာရှင်အင်အား အပြည့်အဝရရှိပါကြောင်း အာမခံပါသည်။

၄။ ငှားရမ်းသည့်မြေ (လုပ်ပိုင်ခွင့်ပြုသည့်မြေ)

၄-၁ ငှားရမ်းသည့်မြေသည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ကော့သောင်းမြို့၏ အနောက်မြောက်ဘက် ကီလိုမီတာ (၇၀)ခန့်၊ မြောက်လတ္တီကျူ့ (10° 30' 21.29"), အရှေ့လောင်ဂျီကျူ့ (98° 13' 04.51") အတွင်းတည်ရှိသော ဗိုလ်နက်ကျော်ကျွန်း အကျယ်အဝန်းဧက (၇၀၀)ခန့်ရှိ မြေပုံအညွှန်း (UTM-1098/02 (A-164676, B-172676, C-150662, D-161657) ဖြစ်ပါသည်။ ဤအကျယ်အဝန်းအနေအထား နှင့် ငှားရမ်းအသုံးပြုသည့် မြေဧရိယာ ဤစာချုပ်တွင် မြေပုံဖြင့် ပူးတွဲထားပါသည်။ (နောက်ဆက်တွဲ(က))မြေပုံကို ဤစာချုပ်၏ အစိတ်အပိုင်းအဖြစ် မှတ်ယူရမည်။

၅။ ငှားရမ်းသည့်ကာလ (လုပ်ကိုင်ခွင့်ပြုသည့်ကာလ)

၅-၁ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူသို့ အထက်ပါ အပိုဒ် ၄-၁တွင် ဖော်ပြထားသော သတ်မှတ်နေရာ (နောက်ဆက်တွဲ(က)) ကို ဤစာချုပ်ဖြင့် နှစ်(၅၀)အသုံးပြုရန်ခွင့်ပြုပါသည်။ သက်တမ်းပြည့်သည့်အခါ လုပ်ကိုင်ခွင့်ရသူသည် ဆက်လက်ငှားရမ်း လုပ်ကိုင်လိုပါက နောက်တစ်ကြိမ်(၁၀) နှစ်စီဖြင့် (၂)ကြိမ် ဆက်လက်သုံးစွဲခွင့်ပြုရန် တင်ပြဆောင်ရွက်ခွင့်ရှိပါသည်။ သက်တမ်းတိုးလိုပါက ငှားရမ်းထားသည့် သက်တမ်းမပြည့်မီ အနည်းဆုံး(၆)လကြိုတင်၍ ရေးသားလျှောက်ထားရမည်။

၆။ လုပ်ငန်းဆောင်ရွက်ခြင်း

၆-၁ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းရရှိသည့်မြေပေါ်တွင် အဆင့်မြင့်ဟိုတယ်နှင့် အပန်းဖြေစခန်းအတွက် ဆက်စပ်ပါဝင်လာမည့် အဆောက်အဦးများကို ဗိုလ်နက်ကျော်ကျွန်းအတွက် နောက်ဆက်တွဲ (ခ)အရ သတ်မှတ်သည့် တည်ဆောက်ရေးကာလအတွင်း ပြီးမြောက်အောင် ဆောင်ရွက်သွားပါမည်။ ဖော်ပြပါလုပ်ငန်းများဆောင်ရွက်မည့် စီမံချက်အသေးစိတ်ကို ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထားပါသည်။ ယင်းနောက်ဆက်တွဲများသည် ဤစာချုပ်၏ အစိတ်အပိုင်းများလည်း ဖြစ်ပါသည်။

၇။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း

၇-၁ လုပ်ကိုင်ခွင့်ရသူသည် မြေဧရိယာဧက (၇၀၀) ခန့်ရှိ ဗိုလ်နက်ကျော်ကျွန်းအတွက် နှစ်စဉ် မြေငှားရမ်းခကို အောက်ပါအတိုင်း ခွဲခြားသတ်မှတ်၍ ဈေးနှုန်းအမျိုးအစား ပိုင်းခြားပေးသွင်းပါမည်။

မြေဧရိယာဧက (၇၀၀) ခန့်ရှိ ဗိုလ်နက်ကျော်ကျွန်းအတွက် ပေးသွင်းရန်ငွေမှာ -

(က) အသုံးပြုနိုင်သောမြေ

(၅၀.၀၀)ဧက/မြန်မာကျပ်ငွေ - ၁၀၀,၀၀၀ နှုန်း - ၅,၀၀၀,၀၀၀ ကျပ်

(ခ) အရန်ထားရှိသည့်မြေ

(၃၅၀.၀၀)ဧက/မြန်မာကျပ်ငွေ - ၁၀,၀၀၀ နှုန်း - ၃,၅၀၀,၀၀၀ ကျပ်

(ဂ) အကာအကွယ်ပေးမည့်မြေ

(၃၀၀.၀၀)ဧက/မြန်မာကျပ်ငွေ - ၅,၀၀၀ နှုန်း - ၁,၅၀၀,၀၀၀ ကျပ်

၇-၂ လုပ်ကိုင်ခွင့်ရသူသည် မြေအသုံးချခ မြန်မာငွေကျပ် (၁၀,၀၀၀,၀၀၀/-) (ကျပ် သိန်းတစ်ရာ တိတိ) ကို ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် တစ်ကြိမ်တည်းသာ တစ်လုံးတစ်ခဲတည်း ပေးသွင်းပါမည်။

၇-၃ လုပ်ကိုင်ခွင့်ရသူသည် နှစ်စဉ်မြေငှားရမ်းခငွေ မြန်မာငွေကျပ် (၁၉,၆၇၃,၅၀၀/-) (ကျပ် တစ်ရာကိုးဆယ့်ခြောက်သိန်းခုနစ်သောင်းသုံးထောင့်ငါးရာ တိတိ) (သို့မဟုတ်) ဟိုတယ်လုပ်ငန်းဝင်ငွေ အခြေခံတွက်ချက်မှု၏ ငါးရာခိုင်နှုန်းအနက် များရာကို ပေးသွင်းပါမည်။

၇-၄ လုပ်ကိုင်ခွင့်ရသူသည် နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင် နှစ်ကြိမ်ပေးချေရပါမည်။ ပထမဆုံးအကြိမ်ကို ဤသဘောတူစာချုပ်တွင်ပါရှိသည့် ဟိုတယ်တရားဝင် ဖွင့်လှစ်သည့်နေ့မှစ၍ ပေးချေရပါမည်။ ပထမအကြိမ် ပေးချေသည့်ငွေမှာ ဗိုလ်နက်ကျော်ကျွန်းအတွက် မြန်မာကျပ်ငွေ (၉,၈၀၀,၀၀၀/-) (ကျပ် ကိုးဆယ့်ရှစ်သိန်း တိတိ) ဖြစ်ပါသည်။ ဒုတိယအကြိမ်ကို ထိုနှစ်၏ဒီဇင်ဘာ(၃၁)ရက် တွင် ပေးချေပါမည်။ ဒုတိယအကြိမ် ပေးချေရမည့် ငွေမှာ ဗိုလ်နက်ကျော်ကျွန်းအတွက် မြန်မာကျပ်ငွေ (၉,၈၇၃,၅၀၀/-) (ကျပ် ကိုးဆယ့်ရှစ်သိန်းခုနစ်သောင်း သုံးထောင့်ငါးရာ တိတိ) ဖြစ်ပါသည်။ (သို့မဟုတ်) ဟိုတယ်လုပ်ငန်းဝင်ငွေအခြေခံတွက်ချက်မှု၏ ငါးရာခိုင်နှုန်း သည် ပိုများနေပါက ယင်းဝင်ငွေအနက် ပထမအကြိမ်ပေးသွင်းခဲ့သည့် ငွေအား ထုတ်နှုတ်၍ ကျန်ငွေပမာဏကို ပေးသွင်းရမည်။

၇-၅ မြေငှားရမ်းပေးသွင်းရာတွင် ငွေပေးသွင်းမှု နောက်ကျပါက လုပ်ကိုင်ခွင့်ရသူသည် နောက်ကျကြေးအဖြစ် တစ်ရက်လျှင် မြန်မာကျပ်ငွေ (၅၀,၀၀၀) (ကျပ် ငါးသောင်း တိတိ)နှုန်းဖြင့် တွက်ချက်၍ ထပ်မံပေးသွင်းရပါမည်။ နောက်ကျကြေးပေးသွင်းမှုကို (၂)လထက်ကျော်လွန်ခြင်းမရှိစေရပါ။

၇-၆ အဆင့်မြင့်ဟိုတယ်လုပ်ငန်းနှင့် အပန်းဖြေစခန်းများ စတင်ဖွင့်လှစ်သည့်ရက်စွဲသည် တည်ဆောက်ရေး ကာလ သတ်မှတ်ရက်ထက် မကျော်လွန်စေရပါ။ အကယ်၍ ဟိုတယ်ဖွင့်လှစ်သည့်နေ့၊ ဝန်ဆောင်မှုများ စတင်သည့်နေ့သည် သတ်မှတ်ရက်ထက်ကျော်လွန်ပါက၊ မြေငှားရမ်းခကို ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ (၃၆)လပြည့်နေ့မှစ၍ ပေးချေရပါမည်။ မြေငှားရမ်းခပေးချေရာ၌ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက သတ်မှတ်ပေးထားသော ငွေစာရင်းခေါင်းစဉ်သို့ မပျက်မကွက်ပေးဆောင်ရပါမည်။

## ၈။ တည်ဆောက်ရေးကာလသတ်မှတ်ခြင်း

၈-၁ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ လပေါင်း (၃၆) လအတွင်း အဆင့်မြင့် ဟိုတယ် လုပ်ငန်းနှင့် အပန်းဖြေစခန်းများ တည်ဆောက်ရေးလုပ်ငန်းများကို သတ်မှတ်နယ်မြေအသီးသီးတွင် အပြီး ဆောက်လုပ်သွားပါမည်။

၈-၂ ကနဦးပတ်ဝန်းကျင်လေ့လာခြင်းကာလကို ဤသဘောတူစာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှစ၍ (၆)လ တာ ကာလ သတ်မှတ်ပါသည်။ တည်ဆောက်ရေးကာလကို ကနဦးပတ်ဝန်းကျင်လေ့လာရေးကာလ အပါအဝင် စုစုပေါင်း(၃၆)လ သတ်မှတ်၍ အပြီးအပြတ် ဆောင်ရွက်ရပါမည်။

## ၉။ လုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များ

၉-၁ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ စတင် အကျိုး သက်ရောက်သည့်နေ့မှစ၍ လုပ်ကိုင်ခွင့်ရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင် အနှောင့်အယှက်မရှိ အေးချမ်း စွာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိစေရမည်ဖြစ်ပါသည်။

၉-၂ လုပ်ကိုင်ခွင့်ရသူက လုပ်ငန်းအတွက် လိုအပ်သော သွင်းကုန်ပစ္စည်းများ၊ စက်ပစ္စည်းများ၊ အပိုပစ္စည်းများ၊ အရန်ပစ္စည်းများနှင့် နည်းပညာ အထောက်အကူပြုပစ္စည်းများ တင်သွင်းရာတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုသည့်အခွန်ကင်းလွတ်ခွင့်၊ အခွန်သက်သာခွင့်တို့ကို ခံစားနိုင်ရန် ကူညီ ဆောင်ရွက်ပေးရပါမည်။

၉-၃ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူက ပေးရန်ရှိသည့် နှစ်စဉ်မြေငှားရမ်းခများကို သတ်မှတ် ကာလအတွင်း မှန်ကန်စွာပေးသွင်းနိုင်ရန် ကြီးကြပ်ပေးရမည်။

၉-၄ လုပ်ကိုင်ခွင့်ပြုသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိကတရားဝင်တာဝန်ပေးအပ်သည့် လူပုဂ္ဂိုလ်၊ အဖွဲ့အစည်းများကိုသော်လည်းကောင်း၊လုပ်ကိုင်ခွင့်ရသူ၏လုပ်ငန်းဆောင်ရွက်မှုများကိုကြိုတင်အသိပေး အကြောင်း ကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

## ၁၀။ လုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ

၁၀-၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထား သော လုပ်ငန်းများကို အချိန်မှီပြီးစီးအောင်ဆောင်ရွက်ရပါမည်။

၁၀-၂ လုပ်ကိုင်ခွင့်ရသူသည် သတ်မှတ်ထားသော မြေငှားရမ်းခနှင့် အခြားအခွန်အခများကို အချိန်မှီ မပျက်မကွက် ပေးသွင်းရပါမည်။

၁၀-၃ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းမှအပ အခြားသော လုပ်ငန်း တစ်စုံတစ်ရာကို ငှားရမ်းသည့်မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်း မပြုရပါ။

၁၀-၄ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်ကာလအတွင်း အဆောက်အဦးများ တိုးချဲ့ခြင်း၊ အရန်ထားရှိထားသည့် မြေနေရာကို အသုံးပြုလိုခြင်းစသည့် ပြောင်းလဲဆောင်ရွက်ရန် ကိစ္စများဖြစ်ပေါ်လာပါက လုပ်ကိုင်ခွင့်ပြုသူထံသို့ စီမံချက်ရေးဆွဲ၍ ကြိုတင်အသိပေးလျက် ခွင့်ပြုချက်ရယူရပါမည်။

၁၀-၅ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကိုဆောင်ရွက်ရာတွင် တစ်ဆင့်ငှားရမ်းခြင်း၊ အခြားသောလူပုဂ္ဂိုလ်/အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်စေခြင်း မပြုရပါ။

၁၀-၆ လုပ်ကိုင်ခွင့်ရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများ ရယူခြင်း ကိစ္စများကို လုပ်ကိုင်ခွင့်ပြုသူထံ တရားဝင်အသိပေး အကြောင်းကြားရပါမည်။

၁၀-၇ လုပ်ကိုင်ခွင့်ရသူသည် မြေကိုငှားရမ်းသုံးစွဲနေစဉ် ကာလအတွင်း ယင်းမြေမှအဖိုးတန် ရတနာပစ္စည်းများ၊ ရေနံ၊ သတ္တုစသည့် အဖိုးတန် သယံဇာတပစ္စည်းများရရှိပါက မိမိလုပ်ငန်းကို ဆက်လက်လုပ်ကိုင်ခြင်းမပြုဘဲ ခေတ္တရပ်နားထားပြီး လုပ်ကိုင်ခွင့်ပြုသူထံ ချက်ချင်းအသိပေး အကြောင်းကြားရပါမည်။

၁၀-၈ လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူက ကြိုတင်အသိပေး အကြောင်းကြား၍ လုပ်ငန်းဆောင်ရွက်မှုများကို လာရောက်ကြည့်ရှုစစ်ဆေးသည့်အခါ စစ်ဆေးမှုကိုခံယူ၍ ညွှန်ကြားသည့်အတိုင်း ညှိနှိုင်းအကောင်အထည်ဖော်ဆောင်ရွက်ပေးရပါမည်။

၁၁။ လုပ်ငန်းလည်ပတ်ခြင်းနှင့် စီမံခန့်ခွဲခြင်း

၁၁-၁ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူက အဆင့်မြင့်ဟိုတယ်လုပ်ငန်းနှင့် အပန်းဖြေစခန်းများ လုပ်ကိုင်ခြင်း၊ စီမံခန့်ခွဲခြင်း စသည့်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းကို သဘောတူခွင့်ပြုပါသည်။

၁၁-၂ အဆင့်မြင့်ဟိုတယ်လုပ်ငန်းနှင့် အပန်းဖြေစခန်းများ စတင်ဖွင့်လှစ်သည့်နေ့သည် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ (B.O.T) စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ လပေါင်း (၃၆) လ ကာလကို မကျော်လွန်စေရပါ။

၁၁-၃ လုပ်ကိုင်ခွင့်ရသူသည် အဆင့်မြင့်ဟိုတယ်လုပ်ငန်းနှင့် အပန်းဖြေစခန်းများ တည်ဆောက်ရာတွင် အဆောက်အဦပုံစံများပြောင်းလဲလိုခြင်း၊ ထပ်မံတိုးချဲ့ခြင်းစသည့် လုပ်ငန်းများလုပ်ကိုင်လိုပါက ထပ်မံဖြည့်ဆည်းသည့် အစိတ်အပိုင်းများ၊ ပစ္စည်းများကို တွက်ချက်ဖော်ပြ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူရန် လုပ်ကိုင်ခွင့်ရသူနှင့် ညှိနှိုင်းဆောင်ရွက်ခွင့် ရှိစေရမည်ဖြစ်ပါသည်။

၁၁-၄ လုပ်ကိုင်ခွင့်ရသူသည် ငွေကြေးသုံးစွဲမှုနှင့် စာရင်းဇယားများကို အတွင်းစာရင်းစစ်ထားရှိပြီး စာရင်းစစ်ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြုစုထားရှိရပါမည်။ ထို့အပြင် တိုင်းဒေသကြီးစာရင်းစစ်ချုပ်ရုံးမှ လုပ်ငန်းလိုအပ်ချက်အရ စာရင်းစစ်ဆေးခြင်းကို လက်ခံရပါမည်။

## ၁၂။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၂-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ - သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည့်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ် သော သတိ ဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။

ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ လုပ်ကိုင်ခွင့်ပြုသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

## ၁၃။ အငြင်းပွားမှု ဖြေရှင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းစေမည်။ ထိုသို့ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်ဖက်တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံရုံးလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏အဆုံးအဖြတ်ကို ခံယူရမည်။ ခုံရုံးလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီး အပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံတော်ဥပဒေအမှတ် - ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ထားဝယ်မြို့ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## ၁၄။ စာချုပ်အားပြင်ဆင်ခြင်း

၁၄-၁ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ စာဖြင့်ရေးသားလျက် ပြင်ဆင်နိုင်သည်။ အဆိုပါ ပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြ၍ ခွင့်ပြုချက် ရယူဆောင်ရွက်ရမည်။

## ၁၅။ စာချုပ်ရပ်စဲခြင်း

၁၅-၁ ဤသဘောတူစာချုပ်သည် အောက်ဖော်ပြပါ အချက်များမှ အကြောင်းတစ်ရပ်ကြောင့်ဖြစ်စေ၊ တစ်ခုထက်ပိုသော အကြောင်းများကြောင့်ဖြစ်စေ ဖြစ်ပေါ်လာပါက စာချုပ်အားရပ်စဲနိုင်သည်-

(က) စာချုပ်ဝင်များ နှစ်ဖက်အပြန်အလှန်သဘောတူညီချက်ဖြင့်ရပ်စဲခြင်း။

(ခ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို ဆက်လက် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် မစွမ်းဆောင်နိုင်တော့ခြင်း။

(ဂ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်အား ဖောက်ဖျက်ခြင်း။

(ဃ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်ပေါ်ခြင်းကြောင့် လုပ်ငန်းဆောင်ရွက်မှုကို ရပ်နားထားခဲ့ရသည့် ကာလ သည် (၁၂) လထက် ကျော်လွန်သွားခြင်း။

(င) ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ မြေငှားရမ်းခြင်းစာချုပ်၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့်အားလျော်စွာ အဆိုပါမြေငှားရမ်းခြင်း စာချုပ်မှာ ဆက်လက် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ခြင်း မရှိတော့သည့်အတွက် ဤစာချုပ်မှာလည်းရပ်စဲသွားခြင်း။

(စ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တည်ဆောက်ရေးလုပ်ငန်းများကို စတင်ဆောင်ရွက်ရမည်ဖြစ်သော်လည်း လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃၆၅) ရက်အတွင်း လုံးဝ စတင်လုပ်ကိုင်မှုမရှိခြင်း။

၁၅.၂ ဤစာချုပ်ရပ်စဲပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းအရာပြည့်စုံစွာ ဖော်ပြလျက် တင်ပြရမည်။

## ၁၆။ မြေနှင့်အဆောက်အဦးများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၆-၁ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းကုန်ဆုံးသည့်အခါ (သို့မဟုတ်) တိုးမြှင့်သည့်သက်တမ်းများကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ ယင်းနေ့များမှ ရက်ပေါင်း(၃၀)အတွင်း ငှားရမ်းသည့်မြေကို လုပ်ကိုင်ခွင့်ပြုသူထံသို့ မလွန်ဆန်နိုင်သောအချက်များကြောင့် မြေအနေအထား ပျက်စီးယိုယွင်းမှုများမှအပ မူလမြေအနေအထား ပျက်စီးယိုယွင်းမှု မဖြစ်ပေါ်စေဘဲ အပ်နှံရပါမည်။

၁၆-၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းကုန်ဆုံးသည့်အခါ (သို့မဟုတ်) သက်တမ်းတိုးမြှင့်ခွင့်ရရှိသော်လည်း ယင်းကဲ့သို့တိုးမြှင့်သည့်ကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ လုပ်ငန်းနှင့်ဆက်စပ်သည့် မရွေ့ပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများအပါအဝင် ပစ္စည်းများအားလုံးကို အဖိုးစားနား (သို့မဟုတ်) ချွင်းချက်မရှိဘဲ လုပ်ကိုင်ခွင့်ပြုသူထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်။

## ၁၇။ မြေအဆောက်အဦများသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၇-၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်)လိုက်နာရန် ပျက်ကွက်ပါက လုပ်ကိုင်ခွင့်ပြုသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် အကြောင်းကြားစာ ပေးပို့ရမည်။

၁၇-၂ လုပ်ကိုင်ခွင့်ရသူသည် ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် လုပ်ကိုင်ခွင့်ပြုသူက အကြောင်းကြားစာပေးပို့သော်လည်း အကြောင်းကြားစာပါကာလအတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် လိုက်နာမှုမရှိ မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိပါသည်။ သို့ရာတွင် ဝင်ရောက်လက်ဝယ်ရယူခြင်းမှာ လုပ်ကိုင်ခွင့်ပြုသူက လုပ်ကိုင်ခွင့်ရသူထံမှ ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၁၈။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်း

၁၈-၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့် ဧရိယာကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေပါ ပြဌာန်းချက်များနှင့်အညီ ကာကွယ်စောင့်ရှောက်ရန် တာဝန်ရှိပါသည်။

၁၈-၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် မြေဧရိယာ ပတ်ဝန်းကျင်၏ ရေထု၊ လေထု များအား သတ်မှတ်ထားသည့် စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင် ထိန်းသိမ်းခြင်း၊ တောတောင် ရေမြေ ဂေဟစနစ်များ မထိခိုက် မပျက်စီးအောင် ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ခြင်း တို့ကို ပြုလုပ်ရပါမည်။

၁၈-၃ လုပ်ကိုင်ခွင့်ရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ စွန့်ပစ်အမှိုက်များနှင့် အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းရန် စီမံဆောင်ရွက်ခြင်း၊ သန့်စင်စနစ်များဖြင့် ဆောင်ရွက်ခြင်းတို့ကို အမြဲမပြတ် ဆောင်ရွက်ကာ သဘာဝပတ်ဝန်းကျင် အား မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရပါမည်။

## ၁၉။ သယံဇာတတွေ့ရှိခြင်း

၁၉-၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်သက်တမ်းအတွင်း အငှားချထားသည့်မြေပေါ်၊ မြေအောက်မှ အငှားချထားစဉ် သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ဓါတ်သတ္တုများ၊ ရေနံ၊ ဓာတုဆိုင်ရာပစ္စည်းများ အပါအဝင် အဖိုးတန်သော သဘာဝအရင်းအမြစ်များ တွေ့ရှိပါက လုပ်ငန်းဆောင်ရွက်မှုကို ချက်ချင်းရပ်ဆိုင်းပြီး လုပ်ကိုင်ခွင့်ပြုသူထံအမြန်အကြောင်းကြား အသိပေးရမည်။ လုပ်ကိုင်ခွင့်ပြုသူမှ ညွှန်ကြားသည့် အတိုင်း ဆောင်ရွက်ရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် လုပ်ကိုင်ခွင့်ပြုသူနှင့်သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာ တူးဖော်ခွင့်ရှိစေရမည်။

## ၂၀။ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ

၂၀-၁ ဤသဘောတူစာချုပ်အပိုဒ် (၂-၃)ပါ အပန်းဖြေစခန်း တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် ဝင်ငွေများထဲမှ အသားတင်အမြတ်၏ ၂% (နှစ်ရာခိုင်နှုန်း) (သို့မဟုတ်) ငွေကျပ် (၂၀,၀၀၀,၀၀၀/-) (ကျပ်သိန်း နှစ်ရာတိတိ) တို့ အနက်များရာပမာဏကို ဒေသဖွံ့ဖြိုးရေးရန်ပုံငွေအဖြစ်သတ်မှတ်လျက် လုပ်ကိုင်ခွင့်ရသူက လုပ်ငန်းဆောင်ရွက်ရာဒေသ၌ ဖွံ့ဖြိုးရေးလုပ်ငန်းများကို ဆောင်ရွက်ပေးရမည်။ ယင်းဒေသဖွံ့ဖြိုးရေး ရန်ပုံငွေကို (၂)နှစ် (၁)ကြိမ် နှစ်ဖက်စုံညီ ညှိနှိုင်းလျက် အတိုး/အလျှော့ ပြုလုပ်ကြရန် ဖြစ်သည်။

၂၀-၂ လုပ်ကိုင်ခွင့်ပြုသူသည် ပေးသွင်းလာသည့် ဒေသဖွံ့ဖြိုးရေးရန်ပုံငွေဖြင့် ယင်းဒေသတွင် ဆောင်ရွက်သင့်သည့် ဖွံ့ဖြိုးရေးလုပ်ငန်းတစ်ရပ်ရပ်ကို ရွေးချယ်သတ်မှတ်ပြီး လုပ်ကိုင်ခွင့်ရသူအား တာဝန်ပေး၍ လုပ်ဆောင်စေနိုင် သည်။

## ၂၁။ လိုက်နာဆောင်ရွက်ရမည့်ဥပဒေ

၂၁-၁ ဤသဘောတူစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

## ၂၂။ စာချုပ်သက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခြင်း

၂၂-၁ ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်တို့သည် တစ်ခုနှင့်တစ်ခု အပြန်အလှန် အကျိုးသက်ရောက်မှုရှိသောကြောင့် သဘောတူစာချုပ်နှစ်ခုလုံး၏ သက်တမ်းမှာ အပြီးသတ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ စာချုပ်၏အကျိုးသက်ရောက်သောရက်ကို စတင်သတ်မှတ်ပါသည်။

၂၂-၂ စာချုပ်များ၏ သက်တမ်းတိုးမြှင့်လိုပါက လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူထံ ယခုစာချုပ်၏ သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၆)လကြိုတင်၍ သက်တမ်းတိုးမြှင့်ရန်စာဖြင့် ရေးသားလျှောက်ထားနိုင်သည်။

၂၂-၃ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းကို တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည်။ သက်တမ်းတိုးမြှင့်မှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။

## ၂၃။ အသိပေးခြင်း

၂၃-၁ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါ ဆက်သွယ်ရေးလမ်းကြောင်း အတိုင်းဆက်သွယ် အကြောင်းကြားရန် ဖြစ်ပါသည်။

(က) အကြောင်းကြားသည့် စနစ်များမှာ စာဖြင့်လည်းကောင်း ၊ တယ်လီဖုန်း ၊ ဖက်(စ်) ၊ အီးမေး(လ်) တို့ဖြင့် လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူးဆက်သားဖြင့် ဆက်သွယ်၍လည်း ကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

(ခ) ဆက်သွယ်ရန်လိပ်စာ

<u>လုပ်ကိုင်ခွင့်ပြုသူကိုယ်စား</u>

| | | |
|---|---|---|
| အမည် | - | ဦးတင်သိန်း |
| မှတ်ပုံတင်အမှတ် | - | ၇/တငန (နိုင်) ဝဂ၆ဂ၆၇ |
| လိပ်စာ | - | အတွင်းရေးမှူး<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ထားဝယ်မြို့။ |
| ဖုန်းနံပါတ် | - | (၉၅)-၅၉-၂၃၅၅၆၊ ၀၉-၈၇၆၀၁၅၅။ |
| ဖက်(စ်) | - | (၉၅)-၅၉-၂၃၆၀၀ |

<u>လုပ်ကိုင်ခွင့်ရသူကိုယ်စား</u>

| | | |
|---|---|---|
| အမည် | - | ဒေါက်တာကောင်းကျော်ဆွေ |
| မှတ်ပုံတင်အမှတ် | - | ၁၂/မဂက (နိုင်) ၁၃၂၄၂၀ |
| လိပ်စာ | - | ရန်ကုန်တိုင်းဒေသကြီး ၊ ရန်ကင်းမြို့နယ် ၊ ရန်အောင်(၆) လမ်း နှင့် ရန်အောင်(၇)လမ်းကြား၊ ရန်ကင်းအိမ်ယာ၊ တိုက်(၅/၃) အခန်း (၁) |
| ဖုန်းနံပါတ် | - | (၉၅)-၁-၅၅၃၇၃၇ ၊ ၀၉-၅၁၂၀၀၀၀၊ |
| ဖက်(စ်) | - | (၉၅)-၁-၅၅၃၇၃၇ |
| အီးမေး(လ်) | - | kfuture2010@gmail.com<br>dr.kaungkyawswe@gmail.com |

၂၄။ အထွေထွေ

၂၄-၁ ဤစာချုပ်နှင့်ပူးတွဲထားသည့် နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစိတ်တဒေသ ဖြစ်စေရမည်။

၂၄-၂ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် အထက်ပါစည်းကမ်းချက်များ၊ အချက်အလက်များကို သဘောတူညီကြပြီး ဖြစ်သည့်အလျောက် ၂၀၁၆ ခုနှစ်၊ လ ( )ရက်နေ့တွင် အောက်ပါ သက်သေများ ရှေ့မှောက်၌ သဘောတူစာချုပ်ချုပ်ဆို၍ လက်မှတ်ရေးထိုးကြပါသည်။

| လုပ်ကိုင်ခွင့်ပြုသူ | လုပ်ကိုင်ခွင့်ရသူ |
|---|---|
| ဦးတင်သိန်း | ဒေါက်တာကောင်းကျော်ဆွေ |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | K Future Co.,Ltd. |
| ထားဝယ်မြို့။ | |

အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | -................................ | လက်မှတ် | -................................ |
| အမည် | -................................ | အမည် | -................................ |
| မှတ်ပုံတင် | -................................ | မှတ်ပုံတင် | -................................ |
| လိပ်စာ | -................................ | လိပ်စာ | -................................ |
| | -................................ | | -................................ |
| | -................................ | | -................................ |

# ဗိုလ်နက်ကျော်ကျွန်းအုပ်စု




မြောက်လတ္တီကျု 10°30'21.29"

အရှေ့လောင်ဂျီကျု 98°13'04.51"

- **Bo Net Kyaw**
- Boyar Nyunt
- Than Yoke

သက်တမ်းတိုး



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 001710

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ....၃၈၅......./ ၂၀၁၀-၂၀၁၁

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ..........ကေ.အနာဂတ်.ကုမ္ပဏီ.လီမိတက်...
........................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်
ကုမ္ပဏီအဖြစ် .၂၀၁၀.နှစ်၊ ..ဇွန်.........လ၊ .၁၄..ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား
၂၀၁၅.နှစ်၊ .....ဇွန်.....လ၊ .၁၀..ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(နီလာမူ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ............385............. of 2010-2011

I hereby certify that the tenure of ...K...FUTURE COMPANY LIMITED...
.............................................................incorporated under the
Myanmar Companies Act on ........................14th JUNE., 2010..........................
is renewed with effected from ..................10th JUNE., 2015..........................

For Director General
(Nilar Mu, Director)
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးကောင်းကျော်ဆွေ ...(၁၂/မရက(နိုင်)၁၃၂၄၂၀)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အခန်း(၃)၊ တိုက်(၁၇)၊ စံပယ်လမ်း၊.......
ဘိုးလိမ်းအောင်မင်္ဂလာရပ်ကွက်၊ထားမွေမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ..၀၉-၇၃၀၉၆၆၆၊၀၉-၇၃၁၄၆၆၆.....

(ဃ) ဒါရိုက်တာများ အမည်စာရင်း(၁) ဒေါ်တင်တင်နွယ်....................
၁၂/ဒဂန(နိုင်)၀၀၃၃၄၉
(၂) ဒေါ်မေနှင်းနု
၁၂/ရကန(နိုင်)၀၇၀၄၇၈

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၃-၆-၂၀၁၅ )မှ ( ၁၂-၆-၂၀၂၀ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( မော်မော်စိုး ၊ ဒုတိယညွှန်ကြားရေးမှူး )

လာရောက်ထုတ်ယူသည့်ရက်စွဲ၊ 11 JUN 2015



THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

**MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT**

DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION

CERTIFICATE OF REGISTRATION OF DOCUMENTS

No. 385 of 2010-2011

IN THE MATTER OF K FUTURE COMPANY LIMITED.

I do hereby certify that pursuant to the Myanmar Companies Act.

- Change of registered office from Room (3), Building (17), Sabai Street, Bolain Aung Mingalar Ward, Tamwe Township, Yangon to Building (5/3), Room (1), Yankin Department Of Human Settlement & Housing Development, Between Yan Aung 6th Street & 7th Street, 2-Ward, Yankin Township, Yangon made on (11-9-2015)

Has / Have been this day duly filed and registered in this office

Dated Yangon, this SIXTEENTH day of SEPTEMBER ,

Two Thousand and FIFTEEN .

MEMORANDUM OF FEES PAID Registering For ............................. Filing

| | | | | K. P |
|---|---|---|---|---|
| 1. | Memorandum of Association | ...... | ...... | |
| 2. | Article of Association | ...... | ...... | |
| 3. | Notice of situation of registered Office and changes therein | ...... | ...... | 2500 - 00 |
| 4. | Return of allotments | ...... | ...... | |
| 5. | Annual list of members and summary of share Capital | ...... | ...... | |
| 6. | Balance sheet | ...... | ...... | |
| 7. | Special or extraordinary resolution | ...... | ...... | |
| 8. | Particular of mortgages and charges | ...... | ...... | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein | ...... | ...... | |
| 10. | Return of persons authorized to accept Services of process and changes therein | ...... | ...... | |
| 11. | | ...... | ...... | |
| | | | | 2500 - 00 |

FOR DIRECTOR GENERAL

(THANDAR SOE – DEPUTY DIRECTOR )

F:\ \destok\Address Change Mmm.docx

10478



# The Government of the Republic of the Union of Myanmar
## Ministry of Commerce
## Department of Trade

# CERTIFICATE OF EXPORTER/IMPORTER REGISTRATION

1. Enterprise Name (မြန်မာ/အင်္ဂလိပ်) K Future Co.,Ltd.

2. Registration No: 24506(02-07-10)

3. Registration Term: FIVE YEAR

4. Start Date : 17-06-2015

5. End Date : 12-06-2020

6. Address : (မြန်မာ/အင်္ဂလိပ်) Building No.5/3, Room (1), Yankin Department Of Human Settlement & Housing Development, Between Yan Aung 6th Street & 7th Street, 2-Ward, Yankin T/S, Yangon Region,Myanmar

7. Business Registration No : 385/2010-2011(14-6-2010)

8. Type of Business : (မြန်မာ/အင်္ဂလိပ်)
☐ Sole Proprietorship(တစ်ဦးတည်းပိုင်) ☐ Partnership(အစုအစပ်)
☑ Limited Company(လီမိတက်ကုမ္ပဏီ)(Myanmar/Foreign)
☐ Co-operative Society(သမဝါယမအသင်း)
☐ Others(Please specify)အခြား(ဖော်ပြရန်) သင်းဖွဲ့မှတ်တမ်းပါလုပ်ငန်း( )မျိုး ဆောင်ရွက်ခွင့်ရှိသည်။

9. Type of Service : ○ New ◉ Extension

10. Contact No :

| 01-400021 | - | kfuture2010@gmail.com |
|---|---|---|
| Telephone No. | Fax No. | e-mail |

11. Remarks :
**According To EICC-108/2015(18-6-2015) Form Kaung Future Co.,Ltd. To K Future Co.,Ltd.**

12. Terms and Conditions : စည်းကမ်းချက်များ
I hereby register the above mentioned enterprise as Exporter/Importer subject to the following terms and conditions: (အောက်ဖော်ပြပါစည်းကမ်းချက်များဖြင့် ပို့ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်တမ်းတင်ခွင့်ပြုသည်)
(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် - တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ကုန်ပစ္စည်းများအားလုံး
(b) The enterprise must abide by the Export/Import rules and Regulations prescribed for the registered Exporters/Importers.(လုပ်ငန်းရှင်သည် မှတ်ပုံတင် ပို့ကုန်သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့်စည်းကမ်းချက်များကို လိုက်နာရမည်)




17/6/2015

For Director General
စစ်နိုင် ၊ လက်ထောက်ညွှန်ကြားရေးမှူး

EIREGEX0615261EIREGEX12130012

**လုပ်ငန်းရည်ရွယ်ချက်များမှာ**

လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ
ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် သုတ်ဆေးများ
ယာဉ်နှင့် စက်ကိရိယာနှင့် အပိုပစ္စည်းများ
ဆေးနှင့်ဆေးပစ္စည်းများ
လျှပ်စစ်နှင့်အီလက်ထရောနစ်ကုန်ပစ္စည်းများ



Form 6
500 share

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104 )

( To be filed with the Registrar within one month after the allotment is made )

Return of allotment from the 1th of October, 200 2013

on the 1th of October, 200 2013 of the * K FUTURE CO., LTD.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .......

" " " " ....... 500 Shares

Nominal amount of the shares so allotted .......

" " " " ....... Ks. 50,000,000/-

Amount paid or due and payable on cash such share.......

" " " " ....... Ks. 100,000/- (Fully Paid UP)

Number of ordinary shares allot5ted for a consideration other than cash Nil

Nominal amount to be ordinary shares so allotted ........ Nil

Amount to be treated as paid on each such share ........ Nil

The consideration for which such share have been allotted is as follow: - Nil

---

NOTE : In making a return of allotted under Section 104 (1) the Myanmar Companies Act., it is to be noted that-

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world " From" after the world " allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

Presented for filing by :

DR. KAUNG KYAW SWE, (MANAGING DIRECTOR)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | ordinary |
| 1. Dr. Kaung Kyaw Swe 12/Ma Ya Ka (Naing) 132420 | No. (E-8), Pin Shwe Nyaung Road, Mon Myat Myattar Housing, Tar Mgwe Township, Yangon. | Merchant | | 300- Shares |
| 2. Daw Tin Tin Nwe 12/Da Ga Na (Naing) 003349 | No. (14), Ward No. (3), Waizayantar Street, (South) Okkalapa Township Yangon. | Merchant | | 100- Shares |
| 3. Daw May Hnin Nu 12/ Ya Ka Na (Naing) 070478 | No. (22), Komin Kochin Yeiktha Street, Ngar Htut Gyi (West), Bahan township Yangon. | Merchant | | 100- Shares |
| | | Total | | 500 - Shares |

Signature

Date 1-10-2013

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)



Name of Company : KAUNG FUTURE CO.,LTD

Present by : U Kaung Kyaw Swe (M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Kaung Kyaw Swe | Myanmar 12/Ma Ya Ka(Naing) 132420 | No.14,(3) Ward,Waizayantar Street,(South) Okkalapa Township,Yangon. | Merchant | Appointed as Managing Director w.e.f (24.1.2011) |
| 2. Daw Tin Tin Nwe | Myanmar 12/Da Ga Na(Naing) 003349 | No.14,(3) Ward,Waizayantar Street,(South) Okkalapa Township,Yangon. | Merchant | Changed form Managing Director to Director w.e.f (24.1.2011) |
| 3. Daw May Hnin Nu | Myanmar 12/Ya Ka Na(Naing) 070478 | No.22,Komin Kochin Yeikthar Street,Ngar Htat Gyi (West), Bahan Township,Yangon. | Merchant | Director |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director`s name the word " in place of ........................ and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ...Kung Future.......

Designation ...Managing Director.....

Dated this 24.1.2011



THE MYANMAR COMPANIES ACT

# LIST OF SHAREHOLDERS.

## FORM E.

**(As required by part II of the Act. See Section 32)**

* * ● * *

SUMMARY OF SHARE CAPITAL AND SHARES OF THE

K FUTURE COMPANY LIMITED

*Made up to the* 23rd, *day of* December, *being the day of the first Ordinary General Meeting in* 2014.

| | |
|---|---|
| Nominal Share Capital - K 100,000,000/- | |
| Divided into * 1000 Shares of K. 100,000/- each | |
| and Shares of K. each | |
| and Shares of K. each | |
| and Shares of K. each | |
| Total number of shares taken up to the 23rd day December, 2014. (This number must agree, with the total shown in the list; as held by existing members) | 80 Shares |
| Numbers of Shares issued subject to payment wholly in cash .... | |
| Numbers of Shares issued as fully paid-up otherwise than in cash | |
| Numbers of Shares issued as partly paid-up to the extent of per share Otherwise than in cash | |
| ● There has been called up on each of 80 Shares K. | Ks. 100,000/- |
| There has been called up on each of Shares K. | (Fully Paid up) |
| There has been called up on each of Shares K. | |
| + Total amount of calls received including payments on application and allotment ... ... ... .... K. | Ks. 8,000,000/- |
| Total amount agree to be considered as paid shares which have been issued as fully paid up otherwise than in cash .... K. | |
| Total amount agreed to be considered as paid shares which have been issued as Partly paid-up to the extent of .... ... ... ... per Share ... .... K. | |
| Total amount of Calls unpaid ... .... .... .... K. | |
| Total amount of sums paid by way of commission in respect of shares or debentures or allowed by way of discount since date of last summary ... ... ... .... K. | |
| Total amount of shares forfeited ... ... ... .... K. | |
| Aggregate number of shares forfeited ... ... ... .... K. | |
| Total amount of Shares and stock for which share-warrants are outstanding ... ... ... .... K. | Dr. Kaung Kyaw Swe<br>Managing Director<br>K Future Co., Ltd |
| Total amount of share-warrants issued ... ... ... .... K. | |
| Do do surrendered since date of last summary K. | |
| Number of shares or amount of stock comprised in each share-warrant ... ... ... .... K. | |
| Total amount of debt due from the Company in respect of all Mortgages and Charges which are required to be registered with the Registrar under this Act ... ... ... .... K. | |

When there are shares of different kind of mounts (e.g., Preference and Ordinary or K.2000 or 1000) state the numbers and nominal values separately.

● Where various amounts have been called, or there are shares of different kinds state them separately.

FORM E-Contd.

**LIST OF PERSONS HOLDING SHARES IN THE ..........**

On the 23rd, day of

*And of Persons who have held shares here in at any time*

*Addresses and account:*

NAMES ADDRESSES AND OCCUPATIONS.

| Folio in register | Name in Full | Father's Name. | Address | Occupation or Casts | *Nationally |
|---|---|---|---|---|---|
| 1. | U Kaung Kyaw Swe | | No.(14), (3) Ward, Waizayantar Street, South Okkalapa Township, Yangon. | Merchant | Myanmar |
| 2. | Daw Tin Tin Nwe | | No.(14), (3) Ward, Waizayantar Street, South Okkalapa Township, Yangon. | Merchant | Myanmar |
| 3. | Daw May Hnin Nu | | No.(22), Komin Kochin Yeikthar Street, Ngar Htat Gyi (West) Bahan Township, Yangon. | Merchant | Myanmar |

- State the aggregate number of shares forfeited (if any)

- The aggregate number of shares held and not the distinctive numbers, must be stated, and the column must be added up throughout so as to make one total to agree with that stated in the summary to have been taken up.

# When the shares are of different classes, these columns may be subdivided, so that the number of each class held or transferred may be shown.

K FUTURE

**........................................COMPANY LIMITED**

........December ,        2014. ...................................................

*Since the date of last return, showing their names and*

*Of the shares so held*

| Date and number of certificate of citizenship if issued by Government of the Union of Myanmar | ACCOUNT OF SHARES | | | | | REMARKS. |
|---|---|---|---|---|---|---|
| | *Number of shares held by existing Members at date of return | ** Particulars of Shares Transferred since the date of the last return by persons who are still Members | | ** Particulars of Shares Transferred since the date of the last return by persons who Ceased to be Members | | |
| | | -Number | Date of Registration of Transfer | # Number | Date of Registration of Transfer | |
| 12/MaYaKa (Naing) 132420 | 30 | | | | | |
| 12/DaGaNa (Naing) 003349 | 30 | | | | | |
| 12/YaKaNa (Naing) 070478 | 20 | | | | | |
| Total: | 80 | Shares | | | | |



** The date of Registration of each transfer should be given as well as the Number of Shares transferred on each date. The particulars should be placed opposite the name of the Transferee ...

FORM E-Contd.

Names and addresses of the persons who are the DIRECTORS of the K FUTURE COMPANY LIMITED

On the 23rd, day of December, 2015.

| NAME | ADDRESS | FOREIGNERS | Nationality Citizens of the Union of Myanmar |
|---|---|---|---|
| 1. U Kaung Kyaw Swe | No.(14), (3) Ward, Waizayantar Street, South Okkalapa Township, Yangon. | | Myanmar 12/MaYaKa(Naing) 132420 |
| 2. Daw Tin Tin Nwe | No.(14), (3) Ward, Waizayantar Street, South Okkalapa Township, Yangon. | | Myanmar 12/DaGaNa(Naing) 003349 |
| 3. Daw May Hnin Nu | No.(22), Komin Kochin Yeikthar Street, Ngar Htat Gyi (West) Bahan Township, Yangon. | | Myanmar 12/YaKaNa(Naing) 070478 |

